KT Services & Logistics Co., Ltd.မှ BOTစနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းငှင်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုလုပ်ငန်းအား ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၆-၁-၂၀၁၆ | | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၃-၁-၂၀၁၆ | ၂၄-၁-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၃-၁-၂၀၁၆ | ၂၅-၁-၂၀၁၆ | |
| | (ဂ) ပို့ဆောင်ရေးဝန်ကြီးဌာန | ၁၃-၁-၂၀၁၆ | ၂-၂-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၃-၁-၂၀၁၆ | ၁၃-၂-၂၀၁၆ | |
| ၃။ | PAT အစည်းအဝေး (၂/၂၀၁၆) (၁၁-၁-၂၀၁၆)သို့ တင်ပြခြင်း | ၁၁-၁-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၁၉-၁-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက် အရ ဝန်ခံကတိပေးပို့ခြင်း | ၂၆-၂-၂၀၁၆ | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၉)စုံ ပြန်လည်ပေးပို့ခြင်း | ၂၉-၂-၂၀၁၆ | | |
| ၇။ | PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၂၉-၂-၂၀၁၆ | | |
| ၈။ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/နေ့ရက် | (၉/၂၀၁၆) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၅၃ ရက်** | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | KT Services & Logistics Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - | BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း၊ ၄င်းနှင့် ဆက်စပ်လုပ်ကိုင်ဆောင်ရွက်နိုင်သောလုပ်ငန်းများနှင့် စီမံခန့်ခွဲမှုများကို လုပ်ကိုင်ခြင်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ မြေတိုင်းရပ်ကွက်အမှတ် ၁၄ စီ၊ မြေကွက်အမှတ် ၃.၃အေ ၄၊ အမှတ် (၅၅/၆၁)ရှိ မြေ ၁၀.၄၅၂ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၆၇၂၄၅.၄၇ သန်း(US$ ၅၂.၆၀ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - | ကနဦးနှစ် (၅၀)နှင့် (၁၀)နှစ် (၂) ကြိမ် |
| အရင်းကြေကာလ | - | (၁၇) နှစ် (၁၁)လ |
| IRR | - | ၈.၉၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၀၉၆.၀၀ | |
| ၄ | ဝင်ငွေခွန် | ၃၀၆၀.၀၀ | ၆၅၀၀.၀၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၀၆၈.၀၀ |
| ၆ | မြေငှားရမ်းခ | | ၃၆၀၀.၀၀ |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ၁၀၀.၂၀ |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁၀၆၈.၀၀ |
| ၉ | CSR (၂%) | | ၃၆၂.၄၂ |
| | | | ပြည်တွင်းဝန်ထမ်း (၄၄၃)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | **စုစုပေါင်း** | ၆၁၅၉.၀၀ | ၁၅၆၉၈.၆၂ |
| | Cost : Benefit | ၁ : ၃ | |

ကန့်သတ်

**KT Services & Logistics Co., Ltd.မှ BOTစနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်း၊ငှင်းနှင့်ဆက်စပ် လုပ် ကိုင်နိုင်သောလုပ်ငန်းများနှင့်ဆိပ်ကမ်းစီမံခန့်ခွဲမှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း သည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - KT Services & Logistics Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဂျော်နသန်မျိုးကျော်သောင်း(အဘ- ဦးမိုးကျော်သောင်း) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း၊ ၄င်းနှင့် ဆက်စပ် လုပ်ကိုင်ဆောင်ရွက်နိုင်သော လုပ်ငန်းများနှင့် စီမံခန့်ခွဲမှုများကို လုပ်ကိုင်ခြင်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊မြေတိုင်း ရပ်ကွက်အမှတ် ၁၄ စီ၊ မြေကွက်အမှတ် ၃. ၃ အေ . ၄၊ အမှတ် (၅၅/၆၁) ရှိ မြေ ၁၀.၄၅၂ ဧက |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၆၇၂၄၅.၄၇ သန်း (US$ ၅၂.၆၀ သန်း အပါအဝင်)** |
| | - ငွေပမာဏ | - ကျပ် ၂၇၅၀.၀၀ သန်း (US$ ၁.၀၀ သန်း အပါအဝင်) |
| | - စက်ပစ္စည်းကိရိယာများ | - ကျပ် ၄၉၃၀၈.၆၂ သန်း (US$ ၃၉.၄၅ သန်း အပါအဝင်) |
| | - အဆောက်အဦ | - ကျပ် ၁၅၁၈၆.၈၅ သန်း (US$ ၁၂.၁၅ သန်း အပါအဝင်) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၅၀)နှစ် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် |
| ၇။ | တည်ဆောက်ရေးကာလ<br>ပဏာမစူးစမ်းမှု ပြုလုပ်မည့်ကာလ | - (၅) နှစ်<br>- (၆) လ မှ (၁)နှစ် |
| ၈။ | ဝန်ဆောင်နိုင်မှု (၆ နှစ်မြောက်) | |

| စဉ် | ဝန်ဆောင်နိုင်မှု | စုစုပေါင်း (US$) |
|---|---|---|
| ၁။ | Stevedorage | ၁၇.၆၃၄ |
| ၂။ | Yard Operations | ၀.၀၂၀ |
| ၃။ | Container Storage | ၀.၀၂၃ |
| ၄။ | Ship Side Operations | ၀.၀၆၃ |
| | စုစုပေါင်း | ၁၇.၇၄၀ |

| | | |
|---|---|---|
| ၉။ | ဝင်ငွေ (၆) နှစ်မြောက်<br>အသုံးစရိတ်<br>အသားတင်အမြတ် | - US$ ၁၇.၇၄ သန်း<br>- US$ ၁၆.၂၃ သန်း<br>- US$ ၁.၅၁ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- US$ ၀.၅၁ သန်း<br>- US$ ၀.၈၉ သန်း |

ကန့်သတ်

| | | |
|---|---|---|
| ၁၁။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၄၄၃ ဦး (အနိမ့်ဆုံး ဝန်ထမ်းလစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ကျပ် ၃၄၀၀၀၀ ဖြစ်ပါသည်။)<br>ပြည်ပ ၄ ဦး ( ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၇၀၀၀ ဖြစ်ပါသည်။) |
| ၁၂။ | အရင်းကြေကာလ | - (၁၇)နှစ် နှင့် (၁၁)လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၈.၉၃ % |
| ၁၄။ | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် KT Services & Logistics (KTSL) Co., Ltd.အမည်ဖြင့် KBZ Bank(Kamaryut Barnch I) တွင် Current A/C ဖွင့်လှစ်ထားကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် တင်ပြထားခြင်းမရှိပါ။ |
| ၁၅။ | အခြားတင်ပြချက် | - ဗိုလ်အောင်ကျော်တံတားရှိ ဆိပ်ခံတံတား၊ အဆောက်အဦ နှင့် မရွှေ့ပြောင်းနိုင်သော ပစ္စည်းများ စာရင်းအား တင်ပြထားပါသည်။ **(ပူးတွဲ)** |
| ၁၆။ | ပို့ဆောင်ရေးဝန်ကြီးဌာနမှ တင်ပြချက် | - ပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် ဗိုလ်အောင်ကျော်ဆိပ်ကမ်းအား ငှားရမ်းမည့် ကုမ္ပဏီသည် (၉-၄-၂၀၁၅) ရက်နေ့တွင် ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းလိုက်သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ဥပဒေကို လိုက်နာဆောင် ရွက်ရန် ဖြစ်ပါကြောင်း။<br>- ၎င်းဥပဒေနှင့်အညီ ဆိပ်ကမ်းလုပ်ငန်းလိုင်စင်လျှောက်ထားခြင်း၊ သက်တမ်းတိုးခြင်းများဆောင်ရွက်ရန် နှင့် ခိုင်ကြေး(Royalty Fees)အဖြစ် ဗိုလ်အောင်ကျော် ဆိပ်ကမ်းတစ်ခုလုံး ဝင်ငွေစုစုပေါင်း (Total Gross Revenue)၏ ၅ % ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ နှစ်စဉ်ကြေးပေးဆောင်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။ |
| ၁၇။ | မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် မှ တင်ပြချက် | - ယခုငှားရမ်းခွင့် တင်ပြသည့်မြေမှာ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ မြေငှားဂရန် ရရှိထားပြီး မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်အမည်ပေါက် ဖြစ်ကြောင်း။<br>- ကုမ္ပဏီသို့ မြေနှင့်အဆောက်အဦအား BOT စနစ်ဖြင့်ငှားရမ်းမည့် သဘောတူညီချက်များအတွက်လည်း ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ တင်ပြထားခြင်း ဖြစ်ကြောင်း။<br>- ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံငွေ US$ ၅၀ သန်းဖြင့် နှစ် ၇၀ (၅၀ + ၁၀ + ၁၀) ဖြင့် ငှားရမ်းလိုခြင်းဖြစ်ပြီး BOT စနစ်ဖြင့် စာချုပ်ချုပ်ဆိုလုပ်ကိုင်မည် ဖြစ်ကြောင်း။ |
| ၁၈။ | ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့် အညီ ချုပ်ဆိုထားသည့် BOT စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း) | - အဆိုပြု ကုမ္ပဏီနှင့် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် တို့ ချုပ်ဆိုမည့် ရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့် အညီ B.O.T ပဋိညာဉ်စာချုပ် (မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း)ပါ အဓိက |

| | | |
|---|---|---|
| | အဓိကအချက်များ | အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br><br>မြေအသုံးချမှုပရီမီယံကြေးအဖြစ် အမေရိကန်ဒေါ်လာ ၁ သန်းတိတိအား MEHL က ရည်ညွှန်း သည့် ငွေစာရင်း အမှတ်သို့ စာချုပ် လက်မှတ် ရေးထိုးပြီး သည့်ရက်မှ (၁၅) ရက်အတွင်း ပေးချေရပါမည်။ **(BOT စာချုပ် အပိုဒ် ၁၁)**<br><br>- မြေနှင့်အဆောက်အအုံ ငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်အရ မြေနှင့်အဆောက်အအုံငှားရမ်းခြင်း ဆိုင်ရာ သဘောတူစာချုပ် လက်မှတ်ရေးထိုးပြီးသည့် နေ့မှ (၅)နှစ်တာကာလ အတွက် နှစ်စဉ် ငှားရမ်းခနှုန်းထားမှာ ၁ နှစ်လျှင် အမေရိကန်ဒေါ်လာ ၃ သန်း ဖြစ်ပါသည်။ **(BOT စာချုပ် အပိုဒ် ၁၄)**<br>- ငှားရမ်းခနှုန်းထားများကို စာချုပ်လက်မှတ်ရေးထိုးသည့် ရက်မှစ၍ ၅ နှစ်လျှင် ၁ ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်မည်ဖြစ်ပြီး နောင်လာမည့် ၅ နှစ် သက်တမ်းအတွက် နှစ်စဉ်ငှားရမ်းခကို လက်ရှိပေးသွင်းနေရသည့် နှစ်စဉ်ငှားရမ်းခ အပေါ် ၁၀% အတွင်း၌ အတိုးအလျှော့ပြုလုပ်၍ နောက် ၅ နှစ်သက်တမ်း မစတင်မီ ၆ လ ကြိုတင်၍ နှစ်ဦးနှစ်ဖက် အပြီးသတ်ညှိနှိုင်းသတ်မှတ်ရမည်။ **(BOT စာချုပ် အပိုဒ် ၁၄)**<br><br>- ကုမ္ပဏီမှ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် အနည်းဆုံး US$ ၅၀ သန်းအား နှစ် ၃၀ အတွင်း အောက်ပါအတိုင်းရင်းနှီးမြှုပ်နှံရမည်- **(BOT စာချုပ် အပိုဒ် ၄)**<br><br>(က) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က အသစ်ဝယ်ယူထားသော ကရိန်း ၂ စီးနှင့် ဆက်စပ်ပစ္စည်းများအတွက် ကျသင့်ငွေ US$ ၈.၁၆ သန်းအနက် US$ ၁ သန်းအား လုပ်ငန်းပြင်ဆင် ရေးကာလ မပြီးဆုံးမီ ၁၀ ရက်ကြိုတင်၍ MEHL က ရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ ပေးသွင်းရင်းနှီးမြှုပ်နှံရမည်။<br><br>(ခ) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က အသစ်ဝယ်ယူထားသော ကရိန်းဖိုးနှင့် ဆက်စပ်ပစ္စည်းများအတွက် ရင်းနှီးမြှုပ်နှံရန် ကျန်ရှိငွေများအား အထက်အပိုဒ်ပါ ငွေစာရင်းသို့ နှစ်စဉ် US$ ၀.၇၉ သန်းအား နှစ်စဉ်ငှားရမ်းခနှင့်အတူ ၉ နှစ်တိတိ ပေးသွင်းရမည်။<br><br>(ဂ) ကျန် ရင်းနှီးငွေ US$ ၄၁.၈၄ သန်းအား လုပ်ငန်းဆောင်ရွက်ခြင်း၊ စက်ပစ္စည်းကိရိယာအသစ်များ ဝယ်ယူခြင်း၊ အဆောက်အအုံသစ်များ ဆောက်လုပ်ခြင်း၊ အစားထိုးတည်ဆောက်ခြင်း စသည့်လုပ်ငန်းများတွင် သုံးစွဲပြီး နှစ် (၃၀) အတွင်း ရင်းနှီးမြှုပ်နှံရမည်။<br><br>- BOT သဘောတူစာချုပ် သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့ရက်မှ စ၍ အကျိုးသက်ရောက်မည်ဖြစ်ပြီး စာချုပ်သက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်သည်။ ဆိပ်ကမ်းနယ်မြေအား |

| | | |
|---|---|---|
| | | YCDC ၏ ဂရန်သက်တမ်းရရှိမှုအပေါ်မူတည်၍ နောက်ထပ် ၁၀ နှစ် ၂ ကြိမ်ကို ကော်မရှင်၏ အတည်ပြုချက် ရယူပြီး စာချုပ်သက်တမ်းတိုးနိုင်သည်။ **(BOT စာချုပ် အပိုဒ် ၉)** |
| ၁၉။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | (က) ဝင်ငွေ ၊ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် နှင့် အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှတင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>(ခ) လွှဲပြောင်းရယူမည့်မြေတွင် တည်ရှိသော အဆောက်အအုံ ၁၅ လုံးအား လွှဲပြောင်းရယူမည်ဖြစ်ပြီး ရုံးခန်းအဖြစ် ထားရှိရန် ၈ထပ်ခွဲ အဆောက်အဦအသစ်တစ်လုံး တည်ဆောက်မည် ဟု အဆောက်အဦဒီဇိုင်းများ ကုမ္ပဏီမှ တင်ပြထားသည်ကို စိစစ်တွေ့ရှိ ရပါသည်။<br>(ဂ) တည်ဆောက်ရေးကာလ ၆ နှစ် နှင့် ပဏာမ စူးစမ်းလေ့လာမှုကာလအဖြစ် ၆ လမှ ၁ နှစ် ဟုဖော်ပြထားသဖြင့် စီးပွားဖြစ် စတင်ခြင်းမရှိသေးဘဲ ဝင်ငွေရရှိပါက ဝင်ငွေခွန် ပေးဆောင်ရမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၄/မ-၁၅၁၅/၂၀၁၆(၃၄၇)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **KT Services & Logistics Co., Ltd.မှBOTစနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင် မှုလုပ်ငန်း၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့်ဆိပ်ကမ်းစီမံခန့်ခွဲမှု လုပ်ငန်းများဆောင်ရွက်ရန် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ KT Services & Logistics Co., Ltd.မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် ၁၄ စီ၊ မြေကွက်အမှတ် ၃. ၃ အေ. ၄၊ အမှတ် (၅၅/၆၁)ရှိ မြေ ၁၀.၄၅၂ ဧက တွင် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊၎င်းနှင့် ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် ဦးဂျော်နသန်မျိုးကျော်သောင်းမှ မြန်မာ့စီးပွားရေးဦးပိုင်ကုမ္ပဏီလီမိတက်မှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကို၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် နှင့် KT Services & Logistics Co., Ltd.တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီချုပ်ဆိုမည့် BOTစနစ်ဖြင့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေအသုံးချမှုပရီမီယံကြေးအဖြစ် အမေရိကန်ဒေါ်လာ ၁ သန်း တိတိအား MEHL က ရည်ညွှန်းသည့် ငွေစားရင်းအမှတ်သို့ စာချုပ် လက်မှတ်ရေးထိုးပြီးသည့် ရက်မှ (၁၅) ရက်အတွင်း ပေးချေရပါမည်။ **(BOT စာချုပ် အပိုဒ် ၁၁)**

(ခ) မြေနှင့်အဆောက်အအုံ ငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်အရ မြေနှင့်အဆောက်အအုံငှားရမ်းခြင်း ဆိုင်ရာ သဘောတူစာ ချုပ် လက်မှတ်ရေးထိုးပြီးသည့်နေ့မှ (၅)နှစ်တာကာလ အတွက် နှစ်စဉ် ငှားရမ်းခနှုန်းထားမှာ ၁ နှစ်လျှင် အမေရိကန်ဒေါ်လာ ၃ သန်း ဖြစ်ပါသည်။ **(BOT စာချုပ် အပိုဒ် ၁၄)**

(ဂ) ငှားရမ်းခနှုန်းထားများကို စာချုပ်လက်မှတ်ရေးထိုးသည့် ရက်မှ စ၍ ၅ နှစ်လျှင် ၁ ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်မည် ဖြစ်ပြီး နောင်လာမည့် ၅ နှစ် သက်တမ်းအတွက် နှစ်စဉ်ငှားရမ်းခကို လက်ရှိပေးသွင်းနေရသည့် နှစ်စဉ်ငှားရမ်းခအပေါ် ၁၀% အတွင်း၌ အတိုးအလျှော့ပြုလုပ်၍ နောက် ၅ နှစ်သက်တမ်း မစတင်မီ ၆ လ

ကြိုတင်၍ နှစ်ဦးနှစ်ဖက် အပြီးသတ်ညှိနှိုင်းသတ် မှတ်ရမည်။ **(BOT စာချုပ် အပိုဒ် ၁၄)**

(ဃ) ကုမ္ပဏီမှ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ရန် အတွက် အနည်းဆုံး US$ ၅၀ သန်းအား နှစ် ၃၀ အတွင်း အောက်ပါအတိုင်း ရင်းနှီးမြှုပ်နှံရမည်- **(BOT စာချုပ် အပိုဒ် ၄)**

(၁) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က အသစ်ဝယ်ယူထား သော ကရိန်း ၂ စီးနှင့် ဆက်စပ်ပစ္စည်းများအတွက် ကျသင့် ငွေ US$ ၈.၁၆ သန်းအနက် US$ ၁ သန်းအား လုပ်ငန်း ပြင်ဆင် ရေးကာလ မပြီးဆုံးမီ ၁၀ ရက်ကြိုတင်၍ MEHL က ရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ ပေးသွင်းရင်းနှီးမြှုပ်နှံရမည်။

(၂) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က အသစ်ဝယ်ယူထားသော ကရိန်းဖိုးနှင့် ဆက်စပ် ပစ္စည်းများအတွက် ရင်းနှီးမြှုပ်နှံရန် ကျန်ရှိငွေများအားအထက်အပိုဒ်ပါ ငွေစာရင်းသို့ နှစ်စဉ် US$ ၀.၇၉ သန်းအား နှစ်စဉ်ငွေးရမ်းခနှင့်အတူ ၉ နှစ်တိတိ ပေးသွင်းရမည်။

(၃) ကျန် ရင်းနှီးငွေ US$ ၄၁.၈၄ သန်းအား လုပ်ငန်းဆောင်ရွက်ခြင်း၊ စက်ပစ္စည်းကိရိယာအသစ်များ ဝယ်ယူခြင်း၊ အဆောက်အအုံသစ်များ ဆောက်လုပ်ခြင်း၊ အစားထိုး တည်ဆောက်ခြင်းစသည့်လုပ်ငန်းများတွင် သုံးစွဲပြီး နှစ် (၃၀) အတွင်း ရင်းနှီးမြှုပ်နှံရမည်။

(င) BOT သဘောတူစာချုပ် သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုး သည့်နေ့ရက်မှစ၍ အကျိုးသက်ရောက်မည်ဖြစ်ပြီး စာချုပ်သက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်သည်။ ဆိပ်ကမ်းနယ်မြေအားYCDC ၏ ဂရန်သက်တမ်းရရှိမှုအပေါ်မူတည်၍ နောက်ထပ် ၁၀ နှစ် ၂ ကြိမ်ကို ကော်မရှင်၏ အတည်ပြုချက် ရယူပြီး စာချုပ် သက်တမ်းတိုးနိုင်သည်။ **(BOT စာချုပ် အပိုဒ် ၉)**

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ်နှင့် နောက်ထပ် ၁၀ နှစ် ၂ ကြိမ် တိုးမြှင့်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃)နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၅၂.၆၀သန်း အပါအဝင် စုစုပေါင်း ကျပ်သန်း ၆၇၂၄၅.၄၇ သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၆၇၂၄၅.၄၇** | **သန်း** | **(US$ ၅၂.၆၀ သန်း အပါအဝင်)** |
| ငွေပမာဏ | ကျပ် | ၂၇၅၀.၀၀ | သန်း | (US$ ၁.၀၀ သန်း အပါအဝင်) |
| စက်ပစ္စည်းကိရိယာများ | ကျပ် | ၄၉၃၀၈.၆၂ | သန်း | (US$ ၃၉.၄၅ သန်း အပါအဝင်) |
| အဆောက်အဦ | ကျပ် | ၁၅၁၈၆.၈၅ | သန်း | (US$ ၁၂.၁၅သန်း အပါအဝင်) |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း (၄၄၃)ဦး နှင့် ပြည်ပဝန်ထမ်း (၄) ဦးခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၈၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၄၀၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၇၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်နိုင်မှု | စုစုပေါင်း (US$) |
|---|---|---|
| ၁။ | Stevedorage | ၁၇.၆၃၄ |
| ၂။ | Yard Operations | ၀.၀၂၀ |
| ၃။ | Container Storage | ၀.၀၂၃ |
| ၄။ | Ship Side Operations | ၀.၀၆၃ |
| | **စုစုပေါင်း** | **၁၇.၇၄၀** |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | US $ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၇.၇၄ |
| (ခ) | အသုံးစရိတ် | ၁၆.၂၃ |
| (ဂ) | အသားတင်အမြတ် | ၁.၅၁ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန်အမေရိကန်ဒေါ်လာ ၀.၈၉ သန်း နှင့် ညီမျှသောမြန်မာကျပ်ငွေနှင့် ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၅၁ သန်း နှင့်ညီမျှသော မြန်မာကျပ်ငွေ ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၇)နှစ်(၁၁)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၈.၉၃ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၄၃)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း။

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်။ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)ရှိမြေ ၁၀.၄၅၂ ဧက (၄၂၂၉၇.၇၄ စတုရန်းမီတာ)အား (၁ စတုရန်းမီတာ US$ ၇၀.၉၂ $/m2/year)နှုန်း းတစ်နှစ်လျှင် (US$ 3,000,000)နှုန်းဖြင့် ၅၀ နှစ် + ၁၀ နှစ် + ၁၀နှစ် စုစုပေါင်း နှစ်(၇၀)ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံ များက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှလည်း ကားအစီးရေ ကိုက်ညီမှုရှိခြင်း၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် အဆိုပြုတင်ပြလာသည့် မြေနေရာမှာ ပင်လယ်မြေမျက်နှာပြင်အထက် အမြင့်ပေ (၁၆၀)ပေအောက် ဆောင်ရွက်ရမည့် ဇရိယာဖြစ်သဖြင့် စုစုပေါင်းအမြင့် (၁၁၈)ပေဖြင့် ဆောက်လုပ်ခြင်းမှာ အမြင့်ပေ ကိုက်ညီမှုရှိပါကြောင်း၊ သတ်မှတ် Ratio များမှာ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီမှုရှိပါကြောင်း။

(၆) ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်နေ့တွင်ကျင်းပသော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ (၅/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ် (၇၁) အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်း။

(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြု လုပ်ငန်းများ အတွက် အသားတင်အမြတ်ငွေ၏ (၃%)အား အသုံးပြု ခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်း

ကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Initial Environmental Examination- IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလာဒ်များကိုအခြေခံ၍ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေ စသည် တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Managsment Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်မှ ချမှတ်ထားသော ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ စည်းကမ်းချက်များနှင့်အညီလိုက်နာကျင်သုံးအကောင်အထည်ဖော် ဆောင်ရွက် ရန်။

**(ကုမ္ပဏီမှ အထက်ပါသဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက် မှု ဆန်းစစ်ချက် (Initial Environmental Examination-IEE)နှင့် (Environmental Management Plan-EMP) အစီရင်ခံစာအား EQM Environmental Quality Management Co., Ltd. မှ Third Party အနေဖြင့်ဆောင်ရွက်၍ ရေးဆွဲမည် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေး ရာဝန်ကြီးဌာနသို့ (၂၂-၂-၂၀၁၆) ရက်စွဲပါစာဖြင့် ပေးပို့ထားပြီးပါသည်။)**

(ဂ) **ပို့ဆောင်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) ပို့ဆောင်ရေးဝန်ကြီးဌာနမှ KT Services & Logistics Co., Ltd. သည် ဗိုလ်အောင်ကျော် ဆိပ်ကမ်းအားငှားရမ်းရာတွင် လန်းပြုအဆောက်အဦပါဝင်မှု မရှိသဖြင့် (၈)ထပ်ခွဲအဆောက်အဦ ဆောက်လုပ်ပြီး ဆိပ်ကမ်းလုပ်ငန်းနှင့် ပတ်သက်သောရုံးခန်းများ၊ အစည်းအဝေးခန်းမနှင့် သင်တန်းခန်းများ၊ဝန်ထမ်း သက်သာစားသောက်ဆိုင်၊သင်္ဘောလိုင်းအေးဂျင့်ရုံးခန်း၊ အကောက်ခွန်ရှင်းလင်း ရေးအေးဂျင့်ရုံးခန်းများ ထားရှိမည် ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် (၈) ထပ်ခွဲ အဆောက်အဦ ဆောက်လုပ်ရာတွင် ကုန်တင်ကုန်ချ လုပ်ငန်းများ အနှောက် အယှက်မဖြစ်စေရန်နှင့် ဘေးအန္တရာယ် ကင်းရှင်းစေရန် နယ်နိမိတ် သတ်မှတ်၍ ခြံစည်းရိုးခတ်သီးခြားထားရှိသင့်ပါကြောင်း။

(ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (နောက်ဆက်တွဲ-ဃ)

(၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်းတွင်တည်ဆောက်မည့် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှု လုပ်ငန်းအတွက် လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် ၈ ထပ်ခွဲ ရုံးခန်း တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေး ပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

(၂) အဆောက်အဦ၏ Electrical, Water & Sanitation နှင့် Air-Con System ကို စိစစ်ခဲ့ရာ လက်ခံနိုင်ပါကြောင်း။

(၃) အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် တစ်ဖက်ပါ ဆောက်လုပ်ရေး ပစ္စည်းများနှင့် အရေအတွက်ကို ထောက်ခံပါကြောင်း-

| စဉ် | ပစ္စည်းအမျိုးအစားမည် | အရေအတွက် | MIC စာအုပ်ပါ အရေအတွက် | BQ တွင် ပါဝင်သော အရေအတွက် | ထောက်ခံ တင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| ၁။ | Portland Cement | Ton | ၃၁၄၂ | ၃၁၄၂ | ၂၂၃၀ |
| ၂။ | Ready Mixed Motor | Bag | ၁၇၀၅၁ | ၁၇၀၅၁ | ၁၀၁၇၅ |
| ၃။ | Water Proof | Gal | ၂၁၇ | ၂၁၇ | ၁၈၃ |
| ၄။ | Steel Structure | Kg | ၆၇၂၉၈ | ၆၇၂၉၈ | ၅၄၃၅၆ |
| ၅။ | Painting to steel | Lit | ၁၄၅၈ | ၁၄၅၈ | ၁၇၁ |
| ၆။ | Rebar | Ton | ၁၅၈၈ | ၁၅၈၈ | ၁၂၈၂ |
| ၇။ | Emulsion paint | Lit | ၃၃၁ | ၃၃၁ | ၃၁၀ |
| ၈။ | Texture paint | m2 | ၁၁၅၁ | ၁၁၅၁ | ၉၇၄ |
| ၉။ | Waterproof paint | Lit | ၈၁ | ၈၁ | ၈၁ |
| ၁၀။ | Acrylic paint | Lit | ၈၁ | ၈၁ | ၈၁ |
| ၁၁။ | Aluminum tempered glass window | m2 | ၃၇၇၁ | ၃၇၇၁ | ၃၇၇၁ |
| ၁၂။ | Passenger Lift | Nos | ၂ | ၂ | ၂ |
| ၁၃။ | Fire Lift | Nos | ၁ | ၁ | ၁ |
| ၁၄။ | Escalators | Nos | ၂ | ၂ | ၂ |

T = တန်, Lit = လီတာ, m2 = စတုရန်းမီတာ, Nos= စီးရေ

(၄) ယခုတင်ပြသော စီမံကိန်းကို စိစစ်ရာတွင်တင်ပြသောဒီဇိုင်းများသည် အမှန်တကယ် အသေးစိတ် တည်ဆောက်မည့် ပုံစံ၊ ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည် ဆိုပါက ယခုတွက်ချက်ထားသော ပစ္စည်းအရေတွက်များမှာ အမှန်တကယ် သုံးစွဲမည့် အရေအတွက်နှင့် ကွာခြားနိုင်ပါသဖြင့် လိုအပ်ပါက Detail Estimate ရရှိသည့်

အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါကြောင်း (Subject to Check)

(၅) သက်ဆိုင်ရာ မီးသတ်ဦးစီးဌာနမှ ချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်း လိုက်နာမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

**(ကုမ္ပဏီမှ မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ ထောက်ခံချက်နှင့်အညီ ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများကို ၂၉-၂-၂၀၁၅ ရက်နေ့တွင် ပြင်ဆင်တင်ပြလာပါသည်။)**

၁၀။ ငွေကြေးအထောက်အထားအဖြစ် KT Services & Logistics (KTSL) Co., Ltd.အမည်ဖြင့် KBZ Bank(Kamaryut Barnch I) တွင် Current A/C ဖွင့်လှစ်ထားကြောင်း အထောက်အထား တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ သက်ဆိုင်ရာဌာန/ အဖွဲ့အစည်းအစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ မီးဘေးကြိုတင်ကာကွယ်တားဆီးရေး စီမံချက်ကို တင်ပြထားပါသည်။

၁၂။ ဝန်ထမ်းများသက်သာချောင်ချိရေး အနေဖြင့် အလုပ်သက်တမ်း၊ ရာထူးစသည်တို့ပေါ်တွင် အခြေခံ၍ အရည်အချင်းပြည့်မီသော ဝန်ထမ်းများအား ၎င်းတို့ ထပ်မံဆည်းပူးလေ့လာလိုသော ပညာရပ်များ သင်ယူလိုပါက အထောက်အပံ့ပေးခြင်း၊ ဝန်ထမ်းများအားလုံးအတွက် လူမှုဖူလုံရေး စောင့်ရှောက်မှုထည့်သွင်းပေးခြင်း၊ လုပ်ခလစာအပေါ် ဝင်ငွေခွန် ပေးဆောင်ပေးခြင်းများပြုလုပ်ပေးသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ CSR (Corporate Social Responsibility) အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၃ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် စပ်လျဉ်း၍ ၁၃၇၃၃၈၇ kWh သုံးစွဲမည်ဖြစ်ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှလွှဲပြောင်းရယူမည့်မြေတွင် ပါဝင်နေသော အဆောက်အအုံ ၁၅ လုံးအား လွှဲပြောင်းရယူမည်ဖြစ်ပြီးရုံးခန်းအဖြစ်ထားရှိရန် ၈ထပ်ခွဲ အဆောက်အဦ အသစ်တစ်လုံး တည်ဆောက်မည်ဟု အဆောက်အဦဒီဇိုင်းများ ကုမ္ပဏီမှ တင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(ခ) တည်ဆောက်ရေးကာလ ၆ နှစ် နှင့် ပမာဏစူးစမ်းလေ့လာမှုကာလ ၆ လ မှ ၁ နှစ် ဟု ဖော်ပြထားသဖြင့်စီးပွားဖြစ်စတင်ခြင်းမရှိသေးဘဲ ဝင်ငွေရရှိပါက ဝင်ငွေခွန် ပေးဆောင်ရ မည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ(က၊ဂ၊စ၊ဆ၊ဇ၊ည)အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ KT Services & Logistics Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ မြေတိုင်းရပ်ကွက် အမှတ် ၁၄ စီ၊ မြေကွက်အမှတ် ၃. ၃ အေ. ၄၊ အမှတ် (၅၅/၆၁) ရှိ မြေ ၁၀.၄၅၂ ဧကတွင် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ၊ ၄င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့်ဆိပ်ကမ်းစီမံခန့်ခွဲမှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက်မှတစ်ဆင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)

(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃. ၁. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၁၅/၂၀၁၆(၀၃၄)

၁။ KT Services & Logistics Co., Ltd. မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ်(၅၅/၆၁)ရှိ မြေ ၁၀. ၄၅၂ ဧကတွင် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၄င်းနှင့်ဆက်စပ် လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ တစ်ဆင့်လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၄၄၃)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ်(၅၅/၆၁)ရှိ မြေ ၁၀. ၄၅၂ ဧက(၄၂၂၉၇. ၇၄ စတုရန်းမီတာ)အား (၁ စတုရန်းမီတာ= USD ၇၀. ၉၂ $/m²/year)နှုန်း၊ တစ်နှစ်လျှင်(USD 3,000,000$)နှုန်းဖြင့် ၅၀ နှစ်+၁၀ နှစ်+၁၀ နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2016/Cabinet/5.,(13)

၂။ အထက်ဖော်ပြပါအချက်များအပြင်ရန်ကုန်မြို့တော်စည်ပင်ယာယာရေးကော်မတီမှလည်း ကားအစီးရေ ကိုက်ညီမှုရှိခြင်း၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် အဆိုပြုတင်ပြလာသည့်မြေနေရာမှာ ပင်လယ်ရေ မျက်နှာပြင်အထက် အမြင့် (၁၆၀)ပေအောက် ဆောင်ရွက်ရမည့် ဇုန်ဧရိယာဖြစ်သဖြင့် စုစုပေါင်းအမြင့် (၁၁၈)ပေ ဖြင့် ဆောက်လုပ်ခြင်းမှာ အမြင့်ပေကိုက်ညီမှုရှိပါကြောင်း၊ သတ်မှတ် Ratio များမှာ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီမှုရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ (၄. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/ ၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၇၁)အရ KT Services & Logistics Co., Ltd.၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဆိပ်ကမ်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
KT Services & Logistics Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/5.,(14)

DDG 106 26/1/16

နောက်ဆက်တွဲ-ခ

ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်း အဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/ ၀၁(၂၃/၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၂၅ ရက်

M3-168 25/1

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ KT Service & Logistics Co.,Ltd မှ BOT စနစ်ဖြင့်ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများအား လုပ်ကိုင်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၁၅ / ၂၀၁၆(၀၂၈-က)

၁။ KT Service & Logistics Co.,Ltd မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ်(၅၅/၆၁)ရှိမြေ(၁၀.၄၅၂)ဧကတွင် BOTစနစ်ဖြင့်ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့်ဆိပ်ကမ်းစီမံခန့်ခွဲမှုများအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် လုပ်ကိုင်ခွင့်ပြုပါရန် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှတဆင့် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလကနဦး(၅၀)နှစ်နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၅)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများအားစောင့်ရှောက်ပေးမှုအစီအစဉ်၊ မီးဘေးလုံခြုံရေးစီမံချက်များ ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေမှ(၃%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ( Corporate Social Responsibility – CSR )လုပ်ငန်းများတွင်အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဆိပ်ကမ်းလုပ်ငန်းဧရိယာအတွင်း သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးနှင့်ရေရှည်တည်တံ့နိုင်စေရန်အတွက် လေထု၊ ရေထုနှင့်မြေထုညစ်ညမ်းမှုများကို ကန့်သတ်ထိန်းချုပ် ဆောင်ရွက်သွား

မည်ဖြစ်ကြောင်းနှင့်ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ KT Service & Logistics Co.,Ltd မှ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများအတွက် ဆိပ်ခံတံတားတည်ဆောက်ခြင်းမှထွက်ရှိလာမည့်ဖုန်မှုန့်နှင့်စွန့်ပစ်ပစ္စည်းများကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ တည်ဆောက်ရေးစက်ယန္တရားယာဉ်များမှအသံဆူညံခြင်းနှင့် အခိုးအငွေ့များထုတ်လွှတ်ခြင်းတို့ကြောင့် လေထုညစ်ညမ်းခြင်း၊ ဆိုက်ကပ်လာမည့် သင်္ဘောကြီးများမှထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များနှင့်မိလ္လာအညစ်အကြေးများ၊ စက်မောင်းဆီနှင့် အင်ဂျင်ဝိုင်များကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်းစသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ KT Service & Logistics Co.,Ltdမှဆောင်ရွက်မည့်ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့်ဆိပ်ကမ်းစီမံခန့်ခွဲမှုများအားလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးအကျိုးပြုလုပ်ငန်းများ(Corporate Social Responsibility –CSR) အတွက် အသားတင်အမြတ်ငွေ၏(၃%)အားအသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း( Initial Environmental Examinition-IEE )ကို

ဆောင်ရွက်ပြီးအစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများ မဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan-EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှချမှတ်ထားသောဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ စည်းကမ်းချက်များနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊၅၂-ပဆ/ခွဲ(၁)၂၀၁၆(ည)(၂/၁၅ )
ရက်စွဲ ၊၂၀၁၆ ခုနှစ် ၊ ဖေဖော်ဝါရီလ ၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၁၅/၂၀၁၆(၀၃၅)

၁။ KT Services & Logistics Co., Ltd မှ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ်(၅၅/၆၁)ရှိ မြေ ၁၀.၄၅၂ ဧကတွင် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများအား လုပ်ကိုင်ရန် အဆိုပြုတင်ပြခြင်း နှင့်စပ်လျဥ်း၍ လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် ရုံးခန်းအဖြစ် (၈)ထပ်ခွဲအဆောက်အဦ တည်ဆောက်ခြင်း၊ ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများ နှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှု လုပ်ငန်းများအတွက် သဘောထားမှတ်ချက်အား ရက်သတ္တပတ်အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကိစ္စနှင့်စပ်လျဥ်း၍ KT Services & Logistics Co., Ltd မှ ဗိုလ်အောင်ကျော်ဆိပ်ကမ်းအား ငှားရမ်းရာတွင် လန်းပြီအဆောက်အဦပါဝင်ခဲ့မှု မရှိသဖြင့် (၈)ထပ်ခွဲအဆောက်အဦ ဆောက်လုပ်ပြီး ဆိပ်ကမ်းလုပ်ငန်းနှင့် ပတ်သက်သောရုံးခန်းများ၊ အစည်းအဝေးခန်းမနှင့် သင်တန်းခန်းများ၊ ဝန်ထမ်းသက်သာစားသောက်ဆိုင်၊ သင်္ဘောလိုင်းအေးဂျင့်ရုံးခန်း၊ အကောက်ခွန်ရှင်းလင်းရေး အေးဂျင့်ရုံးခန်းများ ထားရှိမည်ဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် (၈) ထပ်ခွဲရုံးအဆောက်အဦ ဆောက်လုပ်ရာတွင် ကုန်တင်ကုန်ချ လုပ်ငန်းများ အနှောက်အယှက်မဖြစ်စေရန်နှင့် ဘေးအန္တရာယ် ကင်းရှင်းစေရန် နယ်နိမိတ်သတ်မှတ်၍ ခြံစည်းရိုးခတ် သီးခြားထားရှိသင့်ပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို -
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

\\Motdata\d\KHWE-1 (WATER TRANSPORT)\2016\MPA\52 - PA SA (Balachint).doc

နောက်ဆက်တွဲ-ဃ

ညဂဌ-141
18/2

# မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
# MYANMAR ENGINEERING SOCIETY

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ မအသ / MIC / ၀၁၄၆ / ၂၀၁၆။
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ၊ (၁၃)ရက်။

ညဂ-331
18/2

P-228
18.2.16

အကြောင်းအရာ။ ။ KT Service & Logistics Co.,Ltd ၏ BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများ လုပ်ငန်းများ၊ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် ရုံးခန်းအဖြစ် ဂထပ်ခွဲအဆောက်အဦ တည်ဆောက်ခြင်း လုပ်ငန်း နှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် တောင်းခံထားသည့် ကိစ္စ။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ (၁၃)ရက် နေ့စွဲပါ စာအမှတ် ရက-၄/မ-၁၅၁၅ / ၂၀၁၆ (၀၃၆)။

၁။ အထက်ဖော်ပြပါ အကြောင်းအရာကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ KT Services & Logistics Co.,Ltd မှ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ (၁၆) ရက်စွဲဖြင့် ရန်ကုန်တိုင်း ဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁) ရှိ မြေ ၁၀.၄၅၂ ဧက တွင် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့် ဆိပ်ကမ်း စီမံခန့်ခွဲမှုများ လုပ်ငန်းများ၊ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် ရုံးခန်းအဖြစ် ဂထပ်ခွဲအဆောက်အဦ တည်ဆောက်ခြင်း လုပ်ငန်း ဆောက်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သော ပုံစံများနှင့် အသေးစိတ်ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များ ပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့် ပတ်သက်၍ (၁၇.၁.၂၀၁၆)ရက်နေ့မှ (၁.၂.၂၀၁၆) ရက်နေ့အထိ လိုအပ်သော ပုံစံနှင့် BQ များတောင်းခဲ့ရပြီး (၉.၂.၂၀၁၆) ရက်နေ့အထိ အဆောက်အဦအတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ် သုံးသပ်ခဲ့ပါသည်။ (၉.၂.၂၀၁၆) တွင် ထောက်ခံတင်ပြသော အရေအတွက် အပေါ် ကုမ္ပဏီ ဘက် သို့ သဘောတူကြောင်း စာတောင်း ခံခဲ့ရာ ၊ (၁၀.၂.၂၀၁၆) နေ့တွင် ရရှိခဲ့ ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်တိုင်း တွင် တည်ဆောက်မည့် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သော လုပ်ငန်းများနှင့် ဆိပ်ကမ်း စီမံခန့်ခွဲမှုများ လုပ်ငန်းများ၊ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် ရုံးခန်းအဖြစ် ဂထပ်ခွဲအဆောက်အဦ တည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲ(၁) ပါ ဇယား ဖြင့် ထောက်ခံတင်ပြအပ်ပါသည်။

၅။ KT Service & Logistics Co.,Ltd မှ (၁၀.၂.၂၀၁၆) ရက်စွဲပါ စာဖြင့် Imported List တွင် ပါဝင် သည့် Surface Treatment to steel ( Item) ကို မတင်သွင်း တော့ပါကြောင်း တင်ပြလာ သဖြင့် ပူးတွဲ (၂) ပါစာ ဖြင့် တင်ပြအပ်ပါသည်။

၆။ အဆောက်အဦ၏ Electrical, Water & Sanitation နှင့် Air-Con System ကို စိစစ်ခဲ့ရာ လက်ခံနိုင်ကြောင်း တင်ပြအပ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းခိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**မိတ္တူကို** – Managing Director, KT Services & Logistics Co.,Ltd

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

ပူးတွဲ (၁)

| စဉ် | ပစ္စည်းအမျိုးအမည် | | MIC စာအုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| ၁။ | Portland Cement | Ton | ၃၀၄၂ | ၃၀၄၂ | ၂၂၃၀ |
| ၂။ | Ready Mixed Motor | Bag | ၁၇၀၅၁ | ၁၇၀၅၁ | ၁၀၁၇၅ |
| ၃။ | Water proof | Gal | ၂၁၇ | ၂၁၇ | ၁၈၃ |
| ၄။ | Steel Structure | kg | ၆၇၂၉၈ | ၆၇၂၉၈ | ၅၄၃၅၆ |
| ၅။ | Painting to steel | Lit | ၁၄၅၈ | ၁၄၅၈ | ၁၇၁ |
| ၆။ | Rebar | Ton | ၁၅၈၈ | ၁၅၈၈ | ၁၂၈၂ |
| ၇။ | Emulsion paint | Lit | ၃၃၁ | ၃၃၁ | ၃၁၀ |
| ၈။ | Texture paint | m2 | ၁၁၅၁ | ၁၁၅၁ | ၉၇၄ |
| ၉။ | Waterproof paint | Lit | ၈၁ | ၈၁ | ၈၁ |
| ၁၀။ | Acrylic paint | Lit | ၈၁ | ၈၁ | ၈၁ |
| ၁၁။ | Aluminium tempered glass Window | m2 | ၃၇၇၁ | ၃၇၇၁ | ၃၇၇၁ |
| ၁၂။ | Lift and Escalators | | | | |
| | Passenger Lift | Nos | ၂ | ၂ | ၂ |
| | Fire Lift | Nos | ၁ | ၁ | ၁ |
| | Escalators | Nos | ၂ | ၂ | ၂ |

T = တန် ,   ,  Lit= လီတာ   m2= စတုရန်းမီတာ   Nos= စီးရေ

မှုတွဲ (၂)

KT Services & Logistics

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

ရက်စွဲ ။ ။ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ (၁၀ )ရက်။

အကြောင်းအရာ။ ။ တင်ပြထားသည့် Bill of Quantity မှ အမှတ်စဉ် (၉) အား ပယ်ဖျက်မည် ဖြစ်ကြောင်း တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်တော်များ KT Services & Logistics Co., Ltd သည် (၁၀.၄၅၂) ဧကအကျယ်အဝန်းရှိ ပိုလ်အောင်ကျော်ဆိပ်ကမ်းနယ်မြေတွင် လက်ရှိလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင်ဆောင်ရွက်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများကို B.O.T စနစ်ဖြင့် ဆက်လက်ဆောင်ရွက်မည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ KT Services & Logistics Co.,Ltd မှ တင်ပြထားသည့် Bill of Quantity မှ ပြည်ပမှတင်သွင်းမည့်ပစ္စည်းများစာရင်း၊ အမှတ်စဉ် (၉) မှ Surface Treatment to Steel (Painting Work) အား မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ အကြံပြုချက်အတိုင်း ပြည်ပမှ တင်သွင်းမည့်ပစ္စည်းများစာရင်းမှ ပယ်ဖျက်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

မျိုးသန့်
ဒါရိုက်တာ
KT Services & Logistics Co., Ltd

A4/A5 Anawyahta Complex
Pyay Road, Kamayut Township
Yangon, Myanmar

PHONE 01-527 516-9
FAX 01-527330

နောက်ဆက်တွဲ-င


**MYANMA ECONOMIC HOLDINGS LIMITED**

**မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်**

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.


**Reference No.** ၄/၁/အခရ/ပိုင် ( ၆၄၀ /၂၀၁၆)

**Date** ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ ။ ။ **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၂/၂၀၁၆)အစည်းအဝေးဆိုင်ရာဆုံးဖြတ်ချက်အပေါ် လိုက်နာဆောင်ရွက်ပြီးစီးမှုပြန်လည်တင်ပြခြင်း**

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၁-၂၀၁၆ ရက်စွဲပါစာအမှတ် ရက-၄/ မ-၁၅၁၅/၂၀၁၆(၀၆၉)

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)ရှိ မြေအကျယ် ၁၀. ၄၅၂ ဧကပေါ်တွင် BOT စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများကို KT Services & Logistics Co., Ltd.(KTSL) မှလုပ်ကိုင်ခွင့်အတွက် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်ဘက်မှ ၆-၁-၂၀၁၆ ရက်နေ့တွင်တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကတင်ပြချက်အပေါ် ၁၁-၁-၂၀၁၆ ရက်နေ့တွင် အဆိုပြုချက်စိစစ်ရေးအစည်းအဝေးကျင်းပပြီး ၎င်းအစည်းအဝေးက BOT စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အား ပြင်ဆင်ရန်ဆုံးဖြတ်ပြီး ရည်ညွှန်းစာဖြင့်လည်းစီးပွားရေးဦးပိုင်သို့အကြောင်းကြားခဲ့ပါသည်။

၃။ ယခုအခါ BOT စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ်(မူကြမ်း)တို့အား ပြင်ဆင်ပြီးဖြစ်ပါသဖြင့် လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့အပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
သန်းထွန်း၊ ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှော

MYANMA ECONOMIC HOLDINGS LIMITED
မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်

Tel : 397409, 397453, 397458, 397471, 397472
Fax : 95-01-397454

No. 189 / 191, Mahabandoola Road,
Botataung P.O. 11161
Yangon,
Republic of the Union of Myanmar.

Reference No. ၄/၁/အခရ/ပိုင် ( ၅၄ /၂၀၁၆)

Date ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၆ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ ။ ။ **ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)ရှိမြေ ၁၀. ၄၅၂ ဧကအား KT Services & Logistics Company Limited သို့ ငှားရမ်းခွင့် တင်ပြခြင်း**

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)ရှိ မြေ ၁၀. ၄၅၂ ဧကကို မြန်မာနိုင်ငံသားကုမ္ပဏီဖြစ်သည့် KT Services & Logistics Company Limited သို့ ဆိပ်ကမ်းဝန်ဆောင်မှု လုပ်ငန်းများ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများအား လုပ်ကိုင်ဆောင်ရွက်ရန်အတွက် အောက်ပါအတိုင်းငှားရမ်းသွားလိုပါသည် -

(က) ကုမ္ပဏီအမည် - KT Services & Logistics Company Limited

(ခ) အဆိုပြုမြေ - ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)ရှိ မြေ ၁၀. ၄၅၂ ဧက

(ဂ) ဆောင်ရွက်မည့်လုပ်ငန်း - ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့်ဆက်စပ်လုပ်ကိုင်နိုင်သောလုပ်ငန်းများနှင့်ဆိပ်ကမ်းစီမံခန့်ခွဲမှုများ

(ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏ - US$ 50 သန်း

(င) ငှားရမ်းလိုသည့်နှစ် - နှစ် ၇၀ (၅၀+၁၀+၁၀) BOT စနစ်

၂။ KT Services & Logistics Company Limited မှ နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခနှင့် Land Use Premium အား မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်သို့ အောက်ပါအတိုင်းပေးသွင်းမည်ဖြစ်ပါသည် -

(က) Land Use Premium အမေရိကန်ဒေါ်လာ (၁)သန်းအား လက်မှတ်ရေးထိုးပြီးသည့်ရက်မှ (၁၅)ရက်အတွင်းပေးသွင်းသွားပါမည်။

(ခ) မြေနှင့်အဆောက်အအုံငှားရမ်းခအနေဖြင့် နှစ်စဉ်အမေရိကန်ဒေါ်လာ(၃)သန်းကို မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်က ရရှိသွားမည်ဖြစ်ပါသည်။

(ဂ) လုပ်ငန်းခွင်ပြင်ဆင်ရေးအတွက် ငှားရမ်းခကင်းလွတ်ခွင့်ကာလကို (၁)နှစ်ခွင့်ပြုမည်ဖြစ်ပါသည်။

၃။ ငှားရမ်းခွင့်တင်ပြလာသည့်မြေမှာ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှမြေငှားဂရန်ရရှိထားပြီး မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ KT Services & Logistics Company Limited သို့မြေနှင့်အဆောက်အဦအား BOT စနစ်ဖြင့်ငှားရမ်းမည့် သဘောတူညီချက်များအတွက်လည်း ပြည်ထောင်စုရှေ့နေချုပ်ရုံး၏အကြံပြုချက်များရရှိပြင်ဆင်ထားပြီးဖြစ်ပါသည်။

၄။ သို့ပါ၍ အထက်ပါမြေဧရိယာအား နိုင်ငံသားကုမ္ပဏီဖြစ်သည့် KT Services & Logistics Company Limited သို့ BOT စနစ်ဖြင့်နှစ်ရှည်ငှားရမ်းနိုင်ရေးအတွက် ရင်းနှီးမြှုပ်နှံခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

မန်နေဂျင်းဒါရိုက်တာ(ကိုယ်စား)
သန်းထွန်း၊ ဌာနကြီးမှူး
အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး

မိတ္တူကို
- ရုံးလက်ခံ/မျှော

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၅(ည)(၁၂/ ၁၁၄ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ၊ ဒီဇင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ဗိုလ်အောင်ကျော်ဆိပ်ကမ်းအား BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ရာတွင် ကုမ္ပဏီအမည် ပြင်ဆင်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ထောက်ခံပေးပါရန် တင်ပြလာခြင်း ကိစ္စ

ရည် ညွှန်း ချက် ။ KT Services & Logistics Group Co., Ltd ၏ ၃.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ KT/SPI - 025 / 2015

၁။ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏ စီမံခန့်ခွဲမှု အောက်ရှိ ဗိုလ်အောင်ကျော်ဆိပ်ကမ်းအား နှစ် (၅၀+ ၁၀+ ၁၀) စုစုပေါင်း နှစ်(၇၀) BOT စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်ရန် ဆောင်ရွက်ခွင့် ရရှိခဲ့ပြီး ဖြစ်သဖြင့် KT Services & Logistics Co., Ltd (KTSL) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အရ လျှောက်ထားရမည် ဖြစ်ပါ၍ ထောက်ခံ အသိအမှတ်ပြုပေးပါရန် ရည်ညွှန်းပါစာဖြင့် လျှောက်ထားလာပါသည်။

၂။ အဆိုပါ ကိစ္စနှင့်စပ်လျဉ်း၍ ပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် ဗိုလ်အောင်ကျော်ဆိပ်ကမ်းအား ငှားရမ်းမည့် ကုမ္ပဏီသည် (၉.၄.၂၀၁၅) ရက်နေ့တွင် ပြည်ထောင်စုလွှတ်တော်က ပြဋ္ဌာန်းလိုက်သော မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ဥပဒေကို လိုက်နာဆောင်ရွက်ရန်၊ ၄င်းဥပဒေနှင့်အညီ ဆိပ်ကမ်းလုပ်ငန်းလိုင်စင်လျှောက်ထားခြင်း၊ သက်တမ်းတိုးခြင်းများ ဆောင်ရွက်ရန် နှင့် ခိုင်ကြေး ( Royalty fees) အဖြစ် ဗိုလ်အောင်ကျော်ဆိပ်ကမ်း တစ်ခုလုံး ဝင်ငွေစုစုပေါင်း(Total Gross Revenue) ၏ ၅% ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ နှစ်စဉ်ကြေးပေးဆောင်စေမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သက်ထွန်း - ခေတ္တ အမြဲတမ်းအတွင်းဝန်

မိတ္တူကို -
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
KT Services & Logistics Group Co., Ltd

\\Moldata\D\KHWE-1 (WATER TRANSPORT)\2015\MPA\52-PA SA (NYA).Doc

**KT**
**Services & Logistics**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ (    )ရက်။

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ KT Services & Logistics Co., Ltd သည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)တွင် တည်ရှိသော အဆောက်အအုံ(၁၅)လုံးပါဝင်ပြီး အကျယ်အဝန်း ၁၀.၄၅၂၈ဧကတွင် လက်ရှိလုပ်ကိုင်ဆောင်ရွက်လျှက်ရှိသော ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင် ဆောင်ရွက်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများကို B.O.T စနစ်ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ အဆိုပြုလွှာအား စီစစ်ပေးနိုင်ပါရန်အတွက် အဆိုပြုလွှာ (    ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဂျော်နသန်မျိုးကျော်သောင်း
မန်နေဂျင်းဒါရိုက်တာ
KT Services & Logistics Co., Ltd

A4/A5 Anawyahta Complex
Pyay Road, Kamayut Township
Yangon, Myanmar

PHONE 01-527 516-9
FAX 01-527330

KT
Services & Logistics

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ (     )ရက်။

အကြောင်းအရာ။ ။အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ KT Services & Logistics Co., Ltd သည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)တွင် တည်ရှိသော အဆောက်အအုံ(၁၅)လုံးပါဝင်ပြီး အကျယ်အဝန်း ၁၀.၄၅၂ဧကတွင် လက်ရှိလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင် ဆောင်ရွက်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများကို B.O.T စနစ်ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

အဆိုပါလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ဥပဒေအခန်း(၁၁) ပုဒ်မ(၂၀)အရ အောက်ဖော်ပြပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

(၁) ကုန်ထုတ်လုပ်ငန်း သို့မဟုတ် ဝန်ဆောင်မှုလုပ်ငန်းတစ်ခုခုစီးပွားဖြစ်စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း ငါးနှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်။

(၂) နိုင်ငံတော်မှ အထူးလိုအပ်ချက်အရ ဆောင်ရွက်သော လုပ်ငန်းများအတွက် ကော်မရှင်မှ ထပ်မံသတ်မှတ်ပေးသည့် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်။

(၃) ပုဒ်မခွဲ (က)အရ လုပ်ငန်းမှရရှိသည့် အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(၄) လုပ်ငန်းတစ်ခုချင်းအလိုက် ပုဒ်မခွဲ (က) ပါ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်။

(၅) လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(၆) ဝင်ငွေခွန် စည်းကြပ်ရန် အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်။

(၇) လုပ်ငန်းတည်ဆောက်မှုပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(၈) ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊

KT
Services & Logistics

အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်။

(၉) ကော်မရှင်မှ အချိန်နှင့်တပြေးညီ ကြေငြာထုတ်ပြန်သော အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ။

လေးစားစွာဖြင့်

ဂျော်နသန်မျိုးကျော်သောင်း
မန်နေဂျင်းဒါရိုက်တာ
KT Services & Logistics Co., Ltd

KT
Services & Logistics

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၅ခုနှစ်၊ ဇန်နဝါရီလ(    )ရက်။

**အကြောင်းအရာ ။** **။ ဗိုလ်အောင်ကျော်ဆိပ်ကမ်းမှ TMTဆိပ်ကမ်းအဖြစ်အမည်ပြောင်းလဲလိုကြောင်း တင်ပြခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များKT Services & Logistics Co., Ltd သည် မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှပိုင်ဆိုင်သောရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ကမ်းနားလမ်း၊ အမှတ် (၅၅/၆၁)တွင် တည်ရှိသောအဆောက်အအုံ(၁၅)လုံး ပါဝင်ပြီးအကျယ်အဝန်း ၁၀.၄၅၂ဧက တွင် လက်ရှိလုပ်ကိုင်ဆောင်ရွက်လျှက်ရှိသောဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ၊ ၎င်းနှင့် ဆက်စပ်လုပ်ကိုင်ဆောင်ရွက်နိုင်သောလုပ်ငန်းများနှင့် ဆိပ်ကမ်းစီမံခန့်ခွဲမှုများ ကိုB.O.Tစ နစ်ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်များကုမ္ပဏီ၏ ဆိပ်ကမ်းအား စတင်လွှဲပြောင်း လုပ်ကိုင်သည်နှင့်တပြိုင်နက် ဆိပ်ကမ်းဧရိယာအား ကမ္ဘာ့အဆင့်မီဆိပ်ကမ်းနယ်မြေကြီးတစ်ခုအဖြစ် ပေါ်ပေါက်လာနိုင်ရန် ရည်ရွယ်၍ စက်ပစ္စည်းအသစ်များ၊ လိုအပ်သောကိရိယာများအားလုံးကို ရင်းနှီးမြှုပ်နှံမှုမဟာဗျူဟာများနှင့် လုပ်ငန်းလည်ပတ်မည်ဖြစ်ပါသောကြောင့် ကျွန်တော်များကုမ္ပဏီ၏ဆိပ်ကမ်းအား "TMTဆိပ်ကမ်း" အဖြစ်အမည် ပြောင်းလဲ ပြင်ဆင်ခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဂျော်နသန်မျိုးကျော်သောင်း
မန်နေဂျင်းဒါရိုက်တာ
KT Services & Logistics Co., Ltd

A4/A5AnawyahtaComplex
Pyay Road, Kamayut Township
Yangon, Myanmar

PHONE 01-527 516-9
FAX 01-527330

**အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

၁။ အခြားနည်းဖြင့်လိုအပ်၍ဖော်ပြသည့် ဝေါဟာရများ၏အဓိပ္ပါယ်သတ်မှတ်ချက်များမှလွဲ၍ ဤ BOT သဘောတူစာချုပ်ပါ စကားလုံးများ၏အနက်အဓိပ္ပါယ်ကို အောက်ပါအတိုင်းဖွင့်ဆိုရမည် -

- **BOT သဘောတူစာချုပ်** ဆိုသည်မှာ ဤတည်ဆောက်ခြင်း၊ လုပ်ငန်းဆောင်ရွက်ခြင်း၊ ပြန်လည်လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကိုဆိုလိုသည်။
- **ကော်မရှင်** ဆိုသည်မှာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖွဲ့စည်းထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကိုဆိုလိုသည်။
- **မြေနှင့်အဆောက်အအုံငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်** ဆိုသည်မှာ MEHL နှင့် KTSL Co.,Ltd တို့အကြား ဤ BOT သဘောတူစာချုပ်အလို့ ၄၁ - ၁၀ - ၂၀၁၅ ရက်နေ့ တွင်ချုပ်ဆိုထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ အမှတ် ၅၅/၆၁ တွင်တည်ရှိသော အဆောက်အအုံ ၁၅ လုံးပါဝင်သည့် အကျယ်အဝန်း ၁၀. ၄၅၂ ဧကရှိ ဆိပ်ကမ်းနယ်မြေနှင့် လုပ်ငန်းနှင့်ဆက်စပ်နေသဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာနမှသုံးစွဲခွင့်ပြုထားသောဆိပ်ကမ်းဧရိယာအား ငှားရမ်းသည့် မြေနှင့်အဆောက်အအုံငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကိုဆိုလိုသည်။
- **စီးပွားရေးလုပ်ငန်း** ဆိုသည်မှာ ဆိပ်ကမ်းရှိအဆောက်အအုံများ၊ ဆိပ်ကမ်းသုံးစက်ပစ္စည်းကိရိယာများကို လိုအပ်သလို အဆင့်မြှင့်ပြင်ဆင်ခြင်း၊ ဆောက်လုပ်ခြင်း၊ မွမ်းမံခြင်း၊ အသစ်ဝယ်ယူခြင်း၊ ဖြည့်တင်းခြင်းများ ပြုလုပ်၍ ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ခြင်းကိုဆိုလိုသည်။
- **စာချုပ်ဝင်များ** ဆိုသည်မှာ MEHL နှင့် KTSL Co.,Ltd တို့ကိုစုပေါင်း၍ ခေါ်ဆိုခြင်းဖြစ်ပြီး စာချုပ်ဝင် ဆိုသည်မှာ MEHL (သို့မဟုတ်) KTSL Co.,Ltd ကိုဆိုလိုခြင်းဖြစ်သည်။ တတိယအဖွဲ့အစည်း/ပုဂ္ဂိုလ် ဆိုသည်မှာ ဤ BOT သဘောတူစာချုပ်ပါ စာချုပ်ဝင်များမှလွဲ၍ အခြားအဖွဲ့အစည်း/ပုဂ္ဂိုလ်များကို ဆိုလိုသည်။

**အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၂။ MEHL သည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသောဆိပ်ကမ်းနယ်မြေနှင့် မြေပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်ကိုပိုင်ဆိုင်သူဖြစ်ပြီး KTSL Co.,Ltd သည် BOT သဘောတူစာချုပ်ကို အကောင်အထည်ဖော်ရန် အရည်အချင်းနှင့်ငွေကြေးအင်အားပြည့်စုံသူများဖြစ်ကြပါသည်။ MEHL နှင့် KTSL Co.,Ltd တို့သည် ဤ BOT သဘောတူစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းနှင့် လက်မှတ်ရေးထိုးသူများသည် သက်ဆိုင်ရာစာချုပ်ဝင်များကို အသီးသီးကိုယ်စားပြုကြောင်း အာမခံကြပါသည်။

**လုပ်ငန်းဆောင်ရွက်မည့်ပုံစံ**

၃။ ဤ BOT သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအားလိုက်နာပြီး စာပိုဒ်အမှတ်(၁၁)၊ (၁၄)နှင့်(၁၅)ပါ အခကြေးငွေများကိုပေးသွင်းပြီးနောက် MEHL သည် KTSL Co.,Ltd သို့ ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ အမှတ် ၅၅/၆၁ တွင်တည်ရှိသော အဆောက်အအုံ ၁၅ လုံး ပါဝင်သည့် အကျယ်အဝန်း ၁၀. ၄၅၂ ဧကရှိ ဆိပ်ကမ်းနယ်မြေနှင့် လုပ်ငန်းနှင့်ဆက်စပ်နေသဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာနမှသုံးစွဲခွင့်ပြုထားသော ဆိပ်ကမ်းဧရိယာအားငှားရမ်းပြီး KTSL Co.,Ltd သည် အဆိုပါငှားရမ်းသည့် မြေပေါ်တွင် ဤ BOT သဘောတူစာချုပ်တွင်ဖော်ပြထားသော စီးပွားရေးလုပ်ငန်းများအား သက်ဆိုင်ရာအာဏာပိုင်များနှင့် ဤ BOT သဘောတူစာချုပ်တွင်ဖော်ပြထားသောစည်းကမ်းစည်းမျဉ်းများကိုလိုက်နာ၍ ဆောင်ရွက်ရန်သဘောတူညီသည်။

၄။ KTSL Co.,Ltd သည် ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ရန်အတွက် အနည်းဆုံးအမေရိကန်ဒေါ်လာ ၅၀ သန်းအား နှစ်(၃၀)အတွင်းတွင် အောက်ဖော်ပြပါအတိုင်းရင်းနှီးမြှုပ်နှံရမည် -

(က) MEHL ကအသစ်ဝယ်ယူထားသော ကရိန်း ၂ စီးနှင့်ဆက်စပ်ပစ္စည်းများအတွက် ကျသင့်ငွေ ၈. ၁၆ သန်းအနက် အမေရိကန်ဒေါ်လာ ၁ သန်းအား လုပ်ငန်းပြင်ဆင်ရေးကာလမပြီးဆုံးမီ ၁၀ ရက်ကြိုတင်၍ MEHL ကရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ပေးသွင်းရင်းနှီးမြှုပ်နှံရမည်။

(ခ) MEHL ကအသစ်ဝယ်ယူထားသော ကရိန်းဖိုးနှင့်ဆက်စပ်ပစ္စည်းများအတွက် ရင်းနှီးမြှုပ်နှံရန် ကျန်ရှိငွေများအား ၄ (က)ပါ ငွေစာရင်းအမှတ်သို့ နှစ်စဉ်အမေရိကန်ဒေါ်လာ ၀. ၇၉ သန်းအား နှစ်စဉ်ငှားရမ်းခနှင့်အတူ ၉ နှစ်တိတိပေးသွင်းရင်းနှီးမြှုပ်နှံရမည်။

(ဂ) ကျန်ရင်းနှီးမြှုပ်နှံမည့်ငွေ အမေရိကန်ဒေါ်လာ ၄၁. ၈၄ သန်းအား လုပ်ငန်းများဆောင်ရွက်ခြင်း၊ စက်ပစ္စည်းကိရိယာအသစ်များ ဝယ်ယူခြင်း၊ အဆောက်အအုံအသစ်များဆောက်လုပ်ခြင်း၊ အစားထိုးတည်ဆောက်ခြင်း စသည့်လုပ်ငန်းများတွင်သုံးစွဲပြီး နှစ်(၃၀)အတွင်းရင်းနှီးမြှုပ်နှံရမည်။

၅။ ဤ BOT သဘောတူစာချုပ်စတင်အကျိုးသက်ရောက်သည့်ရက်မှစ၍ လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလ ပြီးဆုံးသည်အထိ ဆိပ်ကမ်းစီမံခန့်ခွဲမှုကိစ္စအရပ်ရပ် (ငွေရေးကြေးရေး၊ ဘဏ္ဍာရေးနှင့်စီမံခန့်ခွဲမှုအားလုံး) အား Lann Pyi Marine Co., Ltd. မှတာဝန်ယူဆောင်ရွက်ရမည်။

၆။ လုပ်ငန်းခွင်လွှဲပြောင်းလက်ခံရေးကာလပြီးဆုံးသည့်ရက်မှစ၍ ဆိပ်ကမ်းစီမံခန့်ခွဲမှုကိစ္စအရပ်ရပ် (ငွေရေးကြေးရေး၊ ဘဏ္ဍာရေးနှင့်စီမံခန့်ခွဲမှုအားလုံး) အား KTSL Co.,Ltd မှတာဝန်ယူဆောင်ရွက်ရမည်။

**ကြိုတင်သဘောတူညီချက်များ**

၇။ ဤ BOT သဘောတူစာချုပ်ပါ စီးပွားရေးလုပ်ငန်းလုပ်ကိုင်ခွင့်များအား ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် ၏သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ လိုအပ်သောခွင့်ပြုချက်များအားလုံးကို MEHL နှင့် KTSL Co.,Ltd တို့ကရရှိပြီးဖြစ်ကြောင်း မှတ်ယူရမည်။

**စာချုပ်အကျိုးသက်ရောက်မည့်နေ့**

၈။ ဤ BOT သဘောတူစာချုပ်အား နှစ်ဦးနှစ်ဖက်အသိသက်သေစုံလင်စွာဖြင့် လက်မှတ်ရေးထိုးသည့် - ၂ -၂၀၁၆ ရက်နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**BOT သဘောတူစာချုပ်သက်တမ်း**

၉။ ဤ BOT သဘောတူစာချုပ်သည် ဤစာချုပ်လက်မှတ်ရေးထိုးသည့်ရက် (စာချုပ်အကျိုးသက်ရောက်သည့်ရက်) မှစ၍ အကျိုးသက်ရောက်မည်ဖြစ်ပြီး စာချုပ်သက်တမ်းမှာကနဦး နှစ် ၅၀ ဖြစ်သည်။ ဆိပ်ကမ်းနယ်မြေအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ ဂရန်သက်တမ်းတိုးရရှိမှုအပေါ် မူတည်၍ နောက်ထပ် (၁၀)နှစ် (၂)ကြိမ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကိုရယူပြီး စာချုပ်သက်တမ်းတိုးနိုင်သည်။

**လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလနှင့်လုပ်ငန်းပြင်ဆင်ရေးကာလ**

၁၀။ KTSL Co.,Ltd. သည် ဆိပ်ကမ်းလုပ်ငန်းများစီမံခန့်ခွဲဆောင်ရွက်ရန်အတွက် Lann Pyi Marine Co.,Ltd. မှလုပ်ငန်းများအားလွှဲပြောင်းလက်ခံရန် လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလအား BOT သဘောတူစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ (၆)လတာကာလအထိ **လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလ** အဖြစ် ခံစားခွင့်ရှိသည်။ KTSL Co.,Ltd. သည် ဆိပ်ကမ်းလုပ်ငန်းများကိုစီမံခန့်ခွဲဆောင်ရွက်ရန်အတွက် လိုအပ်သည့် လုပ်ငန်းခွင်ကြိုတင်ပြင်ဆင်မှုများကို ဆောင်ရွက်နိုင်ရန် **လုပ်ငန်းခွင်ပြင်ဆင်ရေးကာလ** အား လုပ်ငန်းလွှဲပြောင်းကာလပြီးမြောက်သည့်နေ့၏ နောက်(၁)ရက်မှစတင်၍(၁)နှစ်တိတိကာလကို လုပ်ငန်းခွင်ပြင်ဆင်ရေးကာလအဖြစ် ခံစားခွင့်ရှိသည်။

**Land Use Premium ပေးသွင်းခြင်း**

၁၁။ KTSL Co.,Ltd. နှင့် MEHL တို့အကြားချုပ်ဆိုထားသည့် မြေနှင့်အဆောက်အအုံငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်အရ Land Use Premium အမေရိကန်ဒေါ်လာ ၁ သန်း(အမေရိကန်ဒေါ်လာ ၁,၀၀၀,၀၀၀ တိတိ)အား KTSL Co.,Ltd. သည် MEHL သို့ပေးသွင်းရမည်။ အဆိုပါ Land Use Premium အမေရိကန်ဒေါ်လာ ၁ သန်း(အမေရိကန်ဒေါ်လာ ၁,၀၀၀,၀၀၀ တိတိ)အား MEHL ကရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ လက်မှတ်ထိုးပြီးသည့်ရက်မှ (၁၅)ရက်အတွင်းပေးသွင်းရမည်။

၁၂။ စာပိုဒ်(၁၁)တွင်ဖော်ပြထားသော သတ်မှတ်ထားသည့် Land Use Premium အား သတ်မှတ်သည့်ရက်အတွင်း၌ သတ်မှတ်ထားသောငွေစာရင်းသို့ ပေးသွင်းရန်ပျက်ကွက်ခဲ့ပါက ဤ BOT သဘောတူစာချုပ်သည် အလိုအလျောက်ရပ်စဲပြီးဖြစ်သည်ဟု စာချုပ်ဝင်များမှမှတ်ယူရမည်။

**ငှားရမ်းခနှုန်းထားနှင့်ငွေပေးချေမှု**

၁၃။ KTSL Co.,Ltd. သည် လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလနှင့် လုပ်ငန်းခွင်ပြင်ဆင်ရေးကာလ (၁)နှစ်တို့ကို ငှားရမ်းခပေးဆောင်ခြင်းမှ ကင်းလွတ်ခွင့်ရရှိသည်။

၁၄။ မြေနှင့်အဆောက်အအုံငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်အရ မြေနှင့်အဆောက်အအုံငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည့်နေ့မှ (၅)နှစ်တာကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထားမှာ (၁)နှစ်လျှင် အမေရိကန်ဒေါ်လာ ၃ သန်းဖြစ်ပါသည်။ ငှားရမ်းခနှုန်းထားများကို စာချုပ်လက်မှတ်ရေးထိုးသည့်ရက်မှစ၍ (၅)နှစ်လျှင်(၁)ကြိမ် နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်သွားရမည်။ နောက်လာမည့်(၅)နှစ်တာသက်တမ်းအတွက် နှစ်စဉ်ငှားရမ်းခကို လက်ရှိပေးသွင်းနေရသည့်နှစ်စဉ်ငှားရမ်းခ၏ ၅ % မှ ၁၀ % အတွင်း၌ အတိုးအလျှော့ပြုလုပ်ပြီး နောက်လာမည့်(၅)နှစ် သက်တမ်းမစတင်မီ(၆)လကြိုတင်၍ နှစ်ဦးနှစ်ဖက်အပြီးသတ်ညှိနှိုင်း သတ်မှတ်ရမည်။ အဆိုပါ နောက်လာမည့်(၅)နှစ်သက်တမ်းအတွက် နှစ်စဉ်ငှားရမ်းခသတ်မှတ်ခြင်း စာချုပ်ကို နောင်လာမည့်(၅)နှစ်သက်တမ်းမတိုင်မီ(၃)လကြိုတင်၍ နှစ်ဦးနှစ်ဖက်ချုပ်ဆိုရမည်။

၁၅။ လုပ်ငန်းခွင်ပြင်ဆင်ရေးကာလ (၁)နှစ်မပြည့်မြောက်မီ (၁၀)ရက်အတွင်းတွင် နှစ်စဉ်ငှားရမ်းခကျသင့်ငွေ အမေရိကန်ဒေါ်လာ ၃ သန်းအား နောက်လာမည့် (၁)နှစ်အတွက်ကြိုတင်ပေးဆောင်ရမည်။ နှစ်စဉ်ငှားရမ်းခငွေများကို MEHL ကရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ပေးသွင်းရမည်။

၁၆။ မြေနှင့်အဆောက်အအုံငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ပါ နှစ်စဉ်ငှားရမ်းခအား ငှားရမ်းမည့်နှစ်မတိုင်မီ (၁၀)ရက်ကြိုတင်၍ပေးသွင်းရမည်။ သတ်မှတ်ကာလတွင် ပေးသွင်းနိုင်ခြင်းမပြုနိုင်ပါက နောက်ကျသောရက်များအတွက်ဒဏ်ကြေးငွေအား နောက်ကျရက်(၁)ရက်လျှင် နောက်ကျပေးသွင်းသည့် ငှားရမ်းခငွေစုစုပေါင်းပမာဏအပေါ်အခြေခံ၍(၁)နှစ်လျှင်(၀. ၂%)ဖြင့်တွက်ချက်ပြီး ဒဏ်ကြေးထပ်ဆောင်းငွေအဖြစ် KTSL Co.,Ltd. မှ MEHL ထံသို့ပေးသွင်းရမည်။

**KTSL Co.,Ltd. ၏အခွင့်အရေးနှင့်တာဝန်ဝတ္တရားများ**

၁၇။ KTSL Co.,Ltd. ၏အခွင့်အရေးနှင့်တာဝန်ဝတ္တရားများမှာအောက်ပါအတိုင်းဖြစ်ပါသည် -

(က) KTSL Co.,Ltd. သည် ကော်မရှင်မှလုပ်ငန်းလုပ်ကိုင်ခွင့်ရရှိပြီးနောက်တွင် ဆိပ်ကမ်းလုပ်ငန်းများအားအဆင့်မြှင့်တင်ဆောင်ရွက်မည့်စီမံကိန်းအတိုင်း နှောင့်နှေးကြန့်ကြာခြင်းမရှိဘဲ စတင်ဆောင်ရွက်ရမည်။

(ခ) KTSL Co.,Ltd. သည် စာပိုဒ်(၄)တွင်ဖော်ပြထားသည့်အတိုင်း ရင်းနှီးမြှုပ်နှံမှုများကိုမပျက်မကွက်ဆောင်ရွက်ရမည်။

(ဂ) KTSL Co.,Ltd. သည် Lann Pyi Marine Co., Ltd. မှ လွှဲပြောင်းလက်ခံရရှိသည့် ဝန်ထမ်းများနှင့်အလုပ်သမားများအတွက် လုပ်ခလစာများအား လက်ရှိပေးချေနေရသည့်နှုန်းထားထက်မနည်းစေရဘဲ တည်ဆဲအလုပ်သမားဥပဒေများနှင့်အညီခံစားခွင့်ပြုရမည်။

(ဃ) KTSL Co.,Ltd. သည် ဆိပ်ကမ်းလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လိုအပ်ပါက ပြည်တွင်း/ပြည်ပ မိတ်ဖက်အဖွဲ့အစည်းများထံမှ လုပ်ငန်းနယ်မြေအတွင်းစီမံခန့်ခွဲမှု၊ နည်းပညာနှင့်ဘဏ္ဍာရေးအရပူးပေါင်းဆောင်ရွက်မှုများကို MEHL ၏ ကြိုတင်သဘောတူညီချက်နှင့် တည်ဆဲဥပဒေများအရ ရယူပူးပေါင်းဆောင်ရွက်ပိုင်ခွင့်ရှိသည်။ သို့သော်လည်း လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ KTSL Co., Ltd. သည် MEHL သို့တာဝန်ခံရမည်။

(င) ငှားရမ်းသည့် အဆောက်အအုံများနှင့်ဆိပ်ကမ်းနယ်မြေကို ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ရန်အတွက် စနစ်တကျပြင်ဆင်ရမည်။

(စ) ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများပြင်ဆင်ခြင်း၊ သန့်ရှင်းရေးများပြုလုပ်ခြင်း၊ လုံခြုံရေးအတွက် စီမံဆောင်ရွက်ခြင်းတို့ကို မိမိ၏စရိတ်ဖြင့်ပြုလုပ်ရမည်။

(ဆ) KTSL Co.,Ltd. သည် ဤ BOT သဘောတူစာချုပ်ကြောင့် ပေါ်ပေါက်လာသော အခွန်၊အခ၊ အကောက် အားလုံးကို (မြေခွန်မှအပ) သက်ဆိုင်ရာအစိုးရဌာနများသို့ ပေးဆောင်ရမည်။ ၎င်းအပြင် ဤ BOT သဘောတူစာချုပ်ပါစီးပွားရေးလုပ်ငန်းအတွက် ဘဏ္ဍာရေးနှစ်အလိုက်ကျသင့်သော ကုန်သွယ်လုပ်ငန်းခွန်ကို MEHL မှတဆင့် ပြည်တွင်းအခွန်များဦးစီးဌာနသို့ သတ်မှတ်ရက်မတိုင်မီ ပေးဆောင်ရမည်။

(ဇ) KTSL Co., Ltd. သည် ဤလက်မှတ်ရေးထိုးသည့် BOT သဘောတူစာချုပ်အတွက် ကျခံရမည့်တံဆိပ်ခေါင်းခွန်အားလုံးအား တည်ဆဲဥပဒေနှင့်အညီကျခံရမည်။

(ဈ) MEHL ၏စာဖြင့်ရေးသားထားသော သဘောတူညီချက်မပါရှိဘဲ ငှားရမ်းထားသောဆိပ်ကမ်းလုပ်ငန်းကိုဖြစ်စေ၊ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အခြားသူများထံတစ်နည်းနည်းဖြင့်လွှဲပြောင်းခြင်း၊ တဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ ပေးကမ်းခြင်း၊ စွန့်လွှတ်ခြင်း စသည်တို့ကို (လုံးဝ)မပြုလုပ်ရ။

(ည) အကြောင်းအမျိုးမျိုးကြောင့် ဆိပ်ကမ်းလုပ်ငန်းအားဆက်လက်ဆောင်ရွက်လိုခြင်းမပြုလိုပါက (၁)နှစ်ကြိုတင်၍ အကြောင်းကြားစာ ပေးပို့ရမည်။

(ဋ) လုပ်ငန်းခွင်တွင် ထူးခြားဖြစ်စဉ် (ဥပမာ- မီးလောင်ခြင်း၊ ဆူပူခြင်း၊ ခိုးယူခြင်း၊ ခိုက်ရန်ဖြစ်ပွားခြင်း ----) စသည်များဖြစ်ပွားလာပါက အချိန်နှင့်တပြေးညီ MEHL သို့ တယ်လီဖုန်း/စာတို့ဖြင့် ပေးပို့တင်ပြသွားရမည်။

(ဌ) မီးဘေးလုံခြုံရေးအတွက်ကြိုတင်စီမံ၍ မီးတားများကိုပြုလုပ်ထားပြီး လိုအပ်သည့်မီးဘေးလုံခြုံရေးစီမံချက်ကို တည်ဆဲဥပဒေများနှင့်အညီရေးဆွဲကာ လိုက်နာဆောင်ရွက်သွားရမည်ဖြစ်သည်။

(ဍ) KTSL Co., Ltd. သည် နိုင်ငံတော်ကခွင့်ပြုသော ဆိပ်ကမ်းနှင့်သက်ဆိုင်သည့် စီးပွားရေးလုပ်ငန်းများကိုသာလုပ်ကိုင်ရမည့်အပြင် တည်ဆဲစက်မှုနှင့်ဆိုင်သောဥပဒေများ၊ အလုပ်ရှင် အလုပ်သမားများနှင့်ဆိုင်သောဥပဒေများ၊ လျှပ်စစ်စွမ်းအားနှင့်ဆိုင်သောဥပဒေများနှင့် အခြားတည်ဆဲဥပဒေ၊ နည်းဥပဒေညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ရမည်။

(ဎ) လုပ်ငန်းဆောင်ရွက်နေစဉ်ကာလအတွင်း မီးဘေးတစ်စုံတစ်ရာနှင့် အခြားအုပ်ချုပ်မှုကိစ္စများပေါ်ပေါက်လာပါက KTSL Co., Ltd. တွင်သာတာဝန်ရှိပြီး ပေးလျော်ရန်တာဝန်များရှိလာပါက ပေးလျော်ရမည်။

(ဏ) ဤ BOT သဘောတူစာချုပ်သက်တမ်းကုန်ဆုံး၍ဖြစ်စေ၊ စာချုပ်ရပ်စဲလျှင်ဖြစ်စေ၊ အကြောင်း အမျိုးမျိုးကြောင့်ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများအတွက် ငှားရမ်းခမပေးသွင်းမှုကြောင့်ဖြစ်စေ၊ အငှားချထားသည့်ပစ္စည်းအား ပြန်လည်အပ်နှံရန် အကြောင်းပေါ်ပေါက်လာပါက KTSL Co., Ltd. က MEHL

သို့ချက်ချင်းအကြောင်းကြားကာ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများကို လုပ်ငန်းဆောင်ရွက်နေသည့်အနေအထားဖြင့် အဖိုးစားနားမဲ့စနစ်တကျပြန်လည်လွှဲပြောင်းပေးရမည်။

(တ) ဤ BOT သဘောတူစာချုပ်သက်တမ်းကုန်ဆုံးလျှင် (သို့မဟုတ်)စာချုပ်ရပ်စဲလျှင် ယင်းနေ့မှ ရက်ပေါင်း (၉၀) အတွင်း KTSL Co., Ltd. ကမိမိ၏လုပ်ငန်းဆောင်ရွက်ချက်များကို အပြီးသတ်ဆောင်ရွက် ရပ်ဆိုင်းပြီး ဖြစ်စေရမည်။

(ထ) MEHL မှတာဝန်ရှိပုဂ္ဂိုလ်များမှဖြစ်စေ၊ သက်ဆိုင်ရာအာဏာပိုင်များကဖြစ်စေ၊ စာရင်းရှင်းလင်းဖျက်သိမ်းရေးအရာရှိကဖြစ်စေ၊ ငှားရမ်းသည့်ဆိပ်ကမ်းအား ကြိုတင်အကြောင်းကြားပြီး လာရောက်စစ်ဆေးပါက စစ်ဆေးခွင့်ပေးရမည်ဖြစ်ပြီး သိလို၍မေးမြန်းလာပါက KTSL Co., Ltd. မှ မှန်ကန်စွာအသိပေးတင်ပြရမည်။

(ဒ) ဤ BOT သဘောတူစာချုပ်ပါအချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပြင်ဆင်အတည်ပြုခဲ့ပါလျှင် ၎င်းပြင်ဆင်အတည်ပြုချက်အတိုင်း တိကျစွာလိုက်နာဆောင်ရွက်ရမည်။

(ဓ) တည်ဆဲဥပဒေများနှင့်အညီ ဆိပ်ကမ်းလုပ်ငန်းဖွံ့ဖြိုးတိုးတက်စေရန်အတွက် လုပ်ငန်းအဆင့်ဆင့်အား စီမံဆောင်ရွက်သွားရမည်။

(န) လုပ်ကိုင်ခွင့်ပြုထားသည့် ဆိပ်ကမ်းနယ်မြေအားအသုံးပြုခြင်းနှင့်စပ်လျဉ်း၍ ဒေသအာဏာပိုင်များ၏ မူဝါဒများပြောင်းလဲလာပါက ပြောင်းလဲလာသည့်မူဝါဒညွှန်ကြားချက်များနှင့်အညီ ငှားရမ်းထားသည့် ဆိပ်ကမ်းနယ်မြေအား KTSL Co., Ltd. မှ MEHL ၏ စာဖြင့်ရေးသားထားသော သဘောတူညီချက်ကိုရယူပြီး လုပ်ငန်းပြောင်းလဲစီမံဆောင်ရွက်ပိုင်ခွင့်ရှိသည်။

(ပ) KTSL Co., Ltd. သည် နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားကုမ္ပဏီတစ်ခုခုနှင့် ဖက်စပ် လုပ်ငန်းတည်ထောင်ပြီး ဤ BOT သဘောတူစာချုပ်ပါစီးပွားရေးလုပ်ငန်းများအား လုပ်ကိုင်လိုပါက MEHL ၏ကြိုတင်သဘောတူညီချက်ကိုရယူ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည်။

(ဖ) KTSL Co., Ltd. သည် ငှားရမ်းထားသည့်ဆိပ်ကမ်းနယ်မြေအတွင်းရှိ တည်ရှိပြီး အဆောက်အအုံများကို လုပ်ငန်းလိုအပ်ချက်အရ ဖယ်ရှားလိုပါက MEHL ၏ ကြိုတင်သဘောတူညီချက်ကို တောင်းခံရမည်။ MEHL ထံမှစာဖြင့်ရေးသားထားသည့် သဘောတူညီချက်ကိုရရှိပါက ဖျက်သိမ်းခွင့်ကို သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံသို့ တင်ပြလျှောက်ထားရယူရမည်။ သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှခွင့်ပြုချက်ရရှိပါက KTSL Co., Ltd. သည် MEHL သို့ဖယ်ရှားမည့် အဆောက်အအုံ၏ လက်ရှိကာလတန်ဖိုးနှင့် အကျိုးခံစားခွင့်အခွင့်အရေး (right of interest) များကို နှစ်ဦးနှစ်ဖက်သဘောတူသတ်မှတ်ပြီး ယင်းအဆောက်အအုံ၏တန်ဖိုးနှင့် အကျိုးခံစားခွင့်အခွင့်အရေးများအား ဗိုလ်အောင်ကျော်၊ မြဝတီဘဏ်ခွဲရှိ Lann Pyi Marine Co., Ltd. ၏ငွေစာရင်းအမှတ် C212L0281000001P သို့အပြည့်အဝပေးချေပြီးမှသာလျှင် အဆောက်အအုံကိုဖယ်ရှားရမည်။

(ဗ) KTSL Co., Ltd သည် ဆောင်ရွက်သည့်စီးပွားရေးလုပ်ငန်းနှင့်အသုံးပြုသည့် စက်ပစ္စည်းယန္တရားများ၊ အဆောက်အအုံများအတွက် ထားရှိရမည့်အာမခံများအား တည်ဆဲမြန်မာ့အာမခံဥပဒေနှင့်အညီထားရှိရမည်။

**MEHL ၏အခွင့်အရေးနှင့်တာဝန်ဝတ္တရားများ**

၁၈။ (က) MEHL သည် လွှဲပြောင်းပေးမည့် ဗိုလ်အောင်ကျော်ဆိပ်ကမ်း (Bo Aung Kyaw Port Terminal) ၏နေရာပြမြေပုံ၊ ဗိုလ်အောင်ကျော်ဆိပ်ကမ်း ပရဝဏ်အတွင်းရှိ အဆောက်အဦများ၊ ဆိပ်ကမ်းသုံးစက်များနှင့် အခြားစက်များတည်ရှိရာနေရာပုံ (Plan of Existing Facilities) နှင့်တကွ အဆောက်အဦ တစ်ခုစီ၏အတိုင်းအတာနှင့် တည်ဆောက်ပုံ၊ ဆိပ်ကမ်းသုံးစက်များ၊ စက်ပစ္စည်းများတစ်ခုစီ၏ (Specification) စက်မှု/လျှပ်စစ်ဆိုင်ရာအကြောင်းအရာများနှင့်ပတ်သက်၍ လက်ရှိအခြေအနေ (Condition) အတိုင်း KTSL Co., Ltd. သို့ နောက်ဆက်တွဲ (က)(ခ)(ဂ) နှင့်အညီ စာရင်းပြုစုလွှဲပြောင်းပေးအပ်ရမည်။

(ခ) MEHL သည် ဆိပ်ကမ်းလုပ်ငန်းနှင့်ပတ်သက်သည့် ဆိပ်ကမ်းလုပ်ငန်းလုပ်ကိုင်ခွင့်လက်မှတ်၊ Lann Pyi Marine Co., Ltd. မှပိုင်ဆိုင်သည့် ပိုင်ဆိုင်မှုများ (Assets)၊ စာရင်းပေါ်ကတန်ဘိုး (Depreciated Book Value) ကို KTSL Co., Ltd. အား ဤ BOT သဘောတူစာချုပ်သက်ဝင်အကျိုးသက်ရောက်သည့်နေ့တွင် လွှဲပြောင်းပေးသောအခါ တပါတည်းအကြောင်းကြားပေးရမည်။

(ဂ) ဤ BOT သဘောတူစာချုပ် အကျိုးသက်ရောက်သည့် နေ့မှစ၍ MEHL မှ KTSL Co., Ltd. သို့လွှဲပြောင်းပေးအပ်၍ KTSL Co., Ltd. သည်ဗိုလ်အောင်ကျော်ဆိပ်ကမ်း (Bo Aung Kyaw Terminal) အထက်စာပိုဒ် ၁၇(က) နှင့် (ခ)ပါအဆောက်အဦနှင့် စက်ပစ္စည်းများနှင့်ဆိပ်ကမ်းဆိုင်ရာလုပ်ငန်းများကို အနှောင့်အယှက်အဟန့်အတားကင်းစွာဖြင့် ဆောင်ရွက်ခွင့်၊ သုံးစွဲခွင့်နှင့် စီမံခန့်ခွဲခွင့်ရှိစေရမည်။

(ဃ) MEHL သည် ပစ္စည်းများလွှဲပြောင်းသည့်ကာလတွင် KTSL Co., Ltd. သို့စာချုပ်အကျိုးသက်ရောက်သည့်ရက်နေ့တွင်ခန့်ထားပြီးဖြစ်သော ဝန်ထမ်းများ၊ လွှဲပြောင်းပေးရမည်။

(င) အထက်ဖော်ပြပါ အပိုဒ်(၁၀)ပါ လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလနှင့် လုပ်ငန်းပြင်ဆင်ရေးကာလတွင် MEHL ထံသို့ KTSL Co., Ltd. မှဆိပ်ကမ်းလုပ်ငန်းများနှင့်ပတ်သက်၍ အကြံဉာဏ်များတောင်းခံခဲ့ပါက လုပ်ငန်းအဆင်ပြေချောမောစေမည့် အကြံဉာဏ်များပေးရမည်။

(စ) MEHL သည် ဤစာချုပ်သက်ဝင်အကျိုးသက်ရောက်မှုရှိသည့်နေ့အထိ ပေးချေရန်ကိစ္စရပ်များ၊ ကြွေးမြီများရယူရန်ကိစ္စရပ်များ၊ မပြီးပြတ်သေးသောဖြေရှင်းရန်ကိစ္စရပ်များနှင့် မပြီးပြတ်သေးသောအမှုအခင်းများကိုပြီးပြတ်သည်အထိဆောင်ရွက်ရန် တာဝန်ရှိသည်။

(ဆ) ဤ BOT သဘောတူညီချက်ပါစီးပွားရေးလုပ်ငန်းနှင့်စပ်လျဉ်း၍ ကျွမ်းကျင်သောကုန်သွယ်လုပ်ငန်းခွန်ကို KTSL Group Co., Ltd. ထံမှဘဏ္ဍာရေးနှစ်အလိုက်တောင်းခံပြီး ပြည်တွင်းအခွန်များဦးစီးဌာနသို့သတ်မှတ်ရက်မတိုင်မီ ပေးသွင်းရမည်။

**သဘာဝသယံဇာတများ**

၁၉။ စာချုပ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသောဆိပ်ကမ်းနယ်မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများ၊ ရှေးဟောင်းပစ္စည်း၊ သယံဇာတများကိုတွေ့ရှိလျှင် KTSL Group Co., Ltd. သည် MEHL ထံသို့ချက်ခြင်း အကြောင်းကြား ပေးရမည်။ ထိုပစ္စည်းများမှာနိုင်ငံတော်ပိုင်ဖြစ်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် MEHL နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ယူခွင့်ရှိစေရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၂၀။ KTSL Co., Ltd. သည် စာချုပ်သက်တမ်းကနဦးနှစ်(၅၀)ပြည့်၍ စာချုပ်သက်တမ်းကုန်ဆုံးပြီး၊ နောက်ထပ်သက်တမ်းတိုးမြှင့်ငှားရမ်းမည်ဆိုပါက ဤ BOT သဘောတူစာချုပ်အပိုဒ်(၉)ပါ သက်တမ်းကာလအတွက် စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၁)နှစ်ကြိုတင်၍ MEHL ထံသို့စာဖြင့်တရားဝင်တင်ပြပြီး နှစ်ဘက်ညှိနှိုင်းကာ စာချုပ်ပြန်လည်ချုပ်ဆို ဆောင်ရွက်သွားမည်။ ယင်းကဲ့သို့စာချုပ်ပြန်လည်ချုပ်ဆိုသည့်ကိစ္စရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၁။ ဤ BOT သဘောတူစာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်အား ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်း ပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့်ရေးသားသဘောတူညီချက်ဖြင့်သာ ပြုလုပ်နိုင်သည်။ ယင်းသို့ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်းများကို ကော်မရှင်၏ခွင့်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**အငြင်းပွားမှုများအားဖြေရှင်းခြင်း**

၂၂။ ဤ BOT သဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ချစ်ကြည်ရင်းနှီးစွာဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့်ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးကဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံရုံးလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏အဆုံးအဖြတ်ကိုခံယူရမည်။ ခုံရုံးလူကြီးနှစ်ဦး သို့မဟုတ် သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၂၀၁၆ ခုနှစ် မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေ (၂၀၁၆ ခုနှစ်၊ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်-၅)နှင့်အညီဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်သည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကိုအမှုရှုံးသူကကျခံရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၃။ အကယ်၍စာချုပ်ဝင်တစ်ဦးသည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤ BOT သဘောတူစာချုပ်ပါ ၎င်း၏ တာဝန်များကို တစ်စိတ်တစ်ဒေသဖြစ်စေ၊ အားလုံးကိုဖြစ်စေ ယာယီအားဖြင့်ထမ်းဆောင်နိုင်စွမ်းမရှိခြင်း သို့မဟုတ် အခြားစာချုပ်ဝင်မှ ဆောင်ရွက်မှုအားလက်ခံဆောင်ရွက်နိုင်စွမ်းမရှိလျှင် အဆိုပါမလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့် ပတ်သက်၍ အချက်အလက်အပြည့်အစုံကိုစာဖြင့်ရေးသား၍ ထိခိုက်ပျက်စီးဆုံးရှုံးသောစာချုပ်ဝင်သည် အခြား စာချုပ်ဝင်သို့ ယင်းဖြစ်ရပ်ပေါ်ပေါက်ပြီး (၁၄)ရက်အတွင်း နို့တစ်စာ(အသိပေးအကြောင်းကြားစာ)ပေးပို့ရမည်။ အခြား စာချုပ်ဝင်ကလက်ခံလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ထိခိုက် ဆုံးရှုံးသောထိုစာချုပ်ဝင်၏တာဝန်များကို အခြားစာချုပ်ဝင်၏အတည်ပြုချက်ဖြင့် ဆက်လက်ဆောင်ရွက်နိုင်စွမ်း မရှိသည့်ကာလအတွင်း ရပ်ဆိုင်းထားရမည်ဖြစ်သည်။ ကာလရှည်ကြာသောအခြေအနေမှတစ်ပါး လူတို့မစွမ်းဆောင် နိုင်သည့်အခြေအနေများကို အတတ်နိုင်ဆုံးဖယ်ရှားပစ်ရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် နှောင့်နှေးကြန့်ကြာ သောထိခိုက်မှု သို့မဟုတ် ဆုံးရှုံးမှုအတွက် မည်သည့်စာချုပ်ဝင်တွင်မျှတာဝန်မရှိစေရ။

၂၄။ ဤ BOT သဘောတူစာချုပ်ပါ "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသောစကားရပ်သည် မမျှော်မှန်းနိုင်သော ဘေးအန္တရာယ်၊ အစိုးရ၏ကန့်သတ်တားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ အလုပ်ပိတ်ထားခြင်း၊ စက်မှုဆိုင်ရာ အနှောင့်အယှက်များ၊ ပေါက်ကွဲမှုများ၊ မီးလောင်မှုများ၊ ရေလွှမ်းမိုးမှုများ၊ မြေငလျင်များ၊ မုန်တိုင်းများ၊ မိုးကြိုး ပစ်ခြင်းများနှင့် အခြားအလားတူဖြစ်ရပ်များကိုဆိုလိုပြီး စာချုပ်ဝင်တစ်ဦးဦးကထိန်းချုပ်နိုင်မှုမရှိခြင်းနှင့် ဂရုတစိုက်နှင့် လုံ့လဝီရိယစိုက်ထုတ်၍လုပ်ဆောင်သော်လည်း လွန်မြောက်နိုင်စွမ်းမရှိသော ဖြစ်ရပ်များကိုဆိုလိုသည်။

**မြေနှင့်အဆောက်အဦများအား ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၅။ ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ သို့မဟုတ် စာချုပ်ရပ်စဲသည့်အခါ စာချုပ် သက်တမ်းကုန်ဆုံးသည့်နေ့ သို့မဟုတ် စာချုပ်ရပ်စဲသည့်နေ့မှ (၃)လအတွင်း KTSL Co.,Ltd. သည် အငှားချထား သည့်မြေနှင့် အဆောက်အဦတို့အား MEHL သို့ အဖိုးစားနားတစ်စုံတစ်ရာမပါရှိဘဲ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၆။ အောက်ဖော်ပြပါ အကြောင်းအရာတစ်ရပ်ရပ်ပေါ်ပေါက်လာပါက စာချုပ်ဝင်များသည် ဤ BOT သဘောတူစာချုပ်ကို ရပ်စဲနိုင်သည် -

(က) မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ခြင်းသည် တစ်ဆက်တစ်စပ်တည်း ရက်ပေါင်း(၁၈၀) ကျော်လွန်သောဖြစ်ရပ်တွင် KTSL Co., Ltd. မှစာချုပ်ရပ်စဲပေးရန်တောင်းဆိုလျှင်

(ခ) စာချုပ်ဝင်များ လူမွဲအဖြစ်ခံယူသွားလျှင်

(ဂ) စာချုပ်ရပ်စဲရန် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် သဘောတူလျှင်

(ဃ) စီးပွားရေးလုပ်ငန်း၏မူလရည်ရွယ်ချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့သည့် အခြေအနေတွင် KTSL Co., Ltd. မှစာချုပ်ရပ်စဲပေးရန်တောင်းဆိုလျှင်

(င) ဤ BOT သဘောတူစာချုပ် စာပိုဒ် ၂၇ တွင်ဖော်ပြထားသည့်အတိုင်း စည်ကမ်းချက်တစ်ရပ်ရပ်အားပျက်ကွက်မှုကို ရက်ပေါင်း(၆၀)အတွင်း ကုစားနိုင်ခြင်းမရှိခဲ့လျှင်

**ပျက်ကွက်မှုနှင့်ပြန်လည်ဝင်ရောက်ပိုင်ခွင့် (Default and Right of Re-entry)**

၂၇။ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအား KTSL Co., Ltd. သည် ဤ BOT သဘောတူစာချုပ်သက်တမ်းကာလမကုန်ဆုံးမီတွင် ဤ BOT သဘောတူစာချုပ်ပါတာဝန်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် ပျက်ကွက်လျှင် (သို့မဟုတ်) စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်လျှင် MEHL က ယင်းပျက်ကွက်မှု (သို့မဟုတ်) ဖောက်ဖျက်မှုကိုကုစားဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ရမည်။ အကြောင်းကြားစာပေးပို့ပြီးနောက် KTSL Co., Ltd. သည် ရက်ပေါင်း(၆၀)အတွင်း လိုက်နာဆောင်ရွက်ခြင်းမရှိလျှင် ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများအား MEHL သည် ငှားရမ်းသည့်ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်တို့ကို ပြန်လည်လက်ရောက်ရယူခွင့်ရှိသည်။ ထိုအခါ ဤ BOT သဘောတူစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။

၂၈။ အကယ်၍ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအား MEHL မှ အထက်စာပိုဒ်(၂၇)အရ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်တို့ကိုဝင်ရောက်၍ လက်ရောက်ရယူသည့်ကိစ္စတွင် KTSL Co., Ltd. မှ MEHL အားပေးရန်ကျန်ရှိသော ငှားရမ်းခငွေများ၊ ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် ပေးချေရန်တာဝန်မှကင်းလွတ်ခြင်းမရှိစေရ။

**စာပေးစာယူပြုလုပ်ရန် လိပ်စာများ**

၂၉။ KTSL Co., Ltd. နှင့် MEHL တို့အကြားဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းများနှင့်ပတ်သက်၍ အောက်ပါလိပ်စာအတိုင်းလိပ်မူရမည်-

| **မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်** | **KT Services & Logistics Co.,Ltd.** |
|---|---|
| အမည် - ဦးသန်းထွန်း | အမည် - ဦးတင်မောင်ရင် |
| ရာထူး - ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် | ရာထူး - ဒါရိုက်တာ KTSL Co., Ltd |
| လိပ်စာ - အမှတ် (၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ | လိပ်စာ - အေ/၄-အေ/၅၊ အနော်ရထာအိမ်ရာ၊ ပြည်လမ်း၊ ၂ ရပ်ကွက် ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| ဖုန်း - ၀၁ ၃၉၇၄၀၉ | ဖုန်း - ၀၁ ၅၂၇၅၁၆ |
| ဖက်စ် - ၀၁ ၃၉၇၅၅၄ | ဖက်စ် - ၀၁ ၅၂၇၃၃၀ |

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၃၀။ KTSL Co., Ltd. သည် ဆိပ်ကမ်းလုပ်ငန်းခွင်နှင့် ပတ်ဝန်းကျင်ဧရိယာအား လေထု၊ ရေထုနှင့် ကုန်းမြေညစ်ညမ်းမှုများမဖြစ်ပေါ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေအပါအဝင် တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။ လိုအပ်ပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာလိုအပ်ချက်များကို ပတ်ဝန်းကျင်နှင့်လိုက်လျော ညီထွေဖြစ်အောင် ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

**အထွေထွေ**

၃၁။ ဤ BOT သဘောတူစာချုပ်ပါ ရည်ရွယ်ချက်များကိုအကောင်အထည်ဖော်နိုင်ရန်အတွက် ဆောင်ရွက်သောလုပ်ငန်းများနှင့်ပတ်သက်၍ စာရွက်စာတမ်းများ (သို့မဟုတ်) စက်ပစ္စည်းများ (သို့မဟုတ်) လုပ်ငန်းဆောင်ရွက်ချက်များအား စုံစမ်းစစ်ဆေးကြည့်ရှုရန် စာချုပ်ဝင်တစ်ဦးဦးက (သို့မဟုတ်) သက်ဆိုင်ရာအာဏာပိုင်က ကျိုးကြောင်းဆီလျော်စွာဖြင့်တောင်းခံလာလျှင် ကျန်စာချုပ်ဝင်မှတောင်းဆိုသည့်အတိုင်း လိုက်နာဆောင်ရွက်ပေးရမည်။

၃၂။ ဤ BOT သဘောတူစာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်အား စာချုပ်ဝင်တစ်ဦးဦးမှ လိုက်နာဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်) စည်းကမ်းဖောက်ဖျက်ခြင်းတို့ကို ပြုလုပ်ခဲ့ပါကစည်းကမ်းဖောက်ဖျက်သူစာချုပ်ဝင်သည် ဤ BOT သဘောတူစာချုပ်ပါ ကျန်စည်းကမ်းချက်များအားဖောက်ဖျက်သည်ဟု မမှတ်ယူရ။

၃၃။ စာချုပ်ဝင်တစ်ဦးဦးသည် ဤ BOT သဘောတူစာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်အား ဖောက်ဖျက်ခဲ့ပါက စည်းကမ်းဖောက်ဖျက်သူစာချုပ်ဝင်သည် ဤ BOT သဘောတူစာချုပ်အရရရှိသည့်အခွင့်အရေးများအား စွန့်လွှတ်သည်ဟု မမှတ်ယူရ။

**စာချုပ်အားပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၃၄။ ဤ BOT သဘောတူစာချုပ်တွင်ဖော်ပြမထားသောကိစ္စရပ်များနှင့်ပတ်သက်၍ ဆွေးနွေးညှိနှိုင်းလိုက်နာဆောင်ရွက်ရန်ရှိပါက စာချုပ်ဝင်များသည်နှစ်ဦးနှစ်ဖက်အကျိုးအတွက် ရှေးရှု၍ကောင်းမွန်သောစိတ်ထားဖြင့် နှစ်ဦးသဘောတူ ညှိနှိုင်းဆောင်ရွက်ရမည်။

**နောက်ဆက်တွဲများ**

၃၅။ ဤ BOT သဘောတူစာချုပ်နှင့်အတူ ပူးတွဲပါရှိသော အောက်ဖော်ပြပါနောက်ဆက်တွဲအားလုံးသည် ဤ BOT သဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသများအဖြစ် မှတ်ယူရမည် -

နောက်ဆက်တွဲ (က) လုပ်ငန်းသုံးစက်ပစ္စည်းကိရိယာများစာရင်း

(ခ) မရွှေ့မပြောင်းနိုင်သောပစ္စည်းများစာရင်း

(ဂ) အသစ်ဆောက်လုပ်မည့်အဆောက်အအုံများ၏အကွက်ချပုံစံ

ဤ BOT သဘောတူစာချုပ်ပါစည်းကမ်းချက်များအား ဤ MEHL နှင့် KTSL Co., Ltd သည် နှစ်ဦးနှစ်ဖက်သဘောတူလက်ခံပါသဖြင့် ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ( )ရက်တွင် အောက်ဖော်ပြပါ သက်သေများရှေ့မှောက်၌ လက်မှတ်ရေးထိုးကြပါသည် -

**မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (ကိုယ်စား)**

ဗိုလ်ချုပ်ဇာနည်ဝင်း
၁၂/ဒဂန(နိုင်) ၀၁၀၂၂၀
မန်နေဂျင်းဒါရိုက်တာ
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

**KTSL Co., Ltd (ကိုယ်စား)**

ဦးကျော်နသန်မျိုးကျော်သောင်း
၁၂/ဗဟန(နိုင်) ၀၈၅၁၅၅
မန်နေဂျင်းဒါရိုက်တာ
**KTSL Co., Ltd**

**"အသိသက်သေများ"**

ဦးသန်းထွန်း
၁၂/ဒဂန (နိုင်) ၀၁၀၃၂၀
ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး
မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

ဦးမျိုးသန့်
၁၂/သဃက(နိုင်) ၀၁၃၂၃၄
ဒါရိုက်တာ
**KTSL Co., Ltd**

မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

မှ

# KT Services & Logistics Co., Ltd

သို့

ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊

အမှတ်(၅၅/၆၁)ရှိ ဗိုလ်အောင်ကျော်ဆိပ်ကမ်း

မြေနှင့်အဆောက်အအုံများအား

ငှားရမ်းခြင်းဆိုင်ရာ

# သဘောတူစာချုပ်

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ(      )ရက်

နေရာ ။ ။ ရန်ကုန်မြို့ ။

## မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်နှင့်
## KT Services & Logistics Co., Ltd တို့အကြားချုပ်ဆိုသော
## ဗိုလ်အောင်ကျော်ဆိပ်ကမ်းမြေနှင့်အဆောက်အအုံများအားငှားရမ်းခြင်းဆိုင်ရာ
## သဘောတူစာချုပ်

ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ(        )ရက်နေ့တွင် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်မှ မန်နေဂျင်းဒါရိုက်တာ ဗိုလ်ချုပ်ဇာနည်ဝင်းကိုယ်စားပြုသော အမှတ်(၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့တွင်တည်ရှိသော မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် (နောင်တွင် "အငှားချထားသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်) တို့ကတစ်ဖက်

နှင့်

KT Services & Logistics Co., Ltd မှမန်နေဂျင်းဒါရိုက်တာ ၊ ဦးကျော်နသန်မျိုးကျော်သောင်း၊ နိုင်ငံသားစိစစ်ရေးအမှတ် ၁၂/ဗဟန(နိုင်) ၀၈၅၁၅၅ ကိုယ်စားပြုသော အမှတ် အေ/၄-အေ/၅၊ အနော်ရထာအိမ်ရာ၊ ပြည်လမ်း၊ ၂ ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်တည်ထောင်ဖွင့်လှစ်ထားသော KT Services & Logistics Co., Ltd (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင်၎င်း၏ ဆက်ခံသူများနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်

တို့သည်

အောက်ဖော်ပြပါစည်းကမ်းချက်များအတိုင်း နှစ်ဦးနှစ်ဘက်သဘောတူ စာချုပ်ချုပ်ဆိုကြပါသည်။

**ငှားရမ်းမည့် ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ ကမ်းနားလမ်း၊ အမှတ်(၅၅/၆၁) တွင်တည်ရှိသော အဆောက်အအုံ(၁၅)လုံးပါဝင်သော အကျယ်အဝန်း ၁၀. ၄၅၂ ဧကရှိ ဆိပ်ကမ်းနယ်မြေနှင့် လုပ်ငန်းနှင့်ဆက်စပ်နေသဖြင့် ပို့ဆောင်ရေးဝန်ကြီးဌာနမှသုံးစွဲခွင့်ပြုထားသည့် ဆိပ်ကမ်းဧရိယာအား ဆိပ်ကမ်း ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန်အတွက် "အငှားချထားခြင်းခံရသူ" အား Building, Operating & Transfer (BOT) စနစ်ဖြင့် ကနဦးနှစ်(၅၀)ငှားရမ်းပြီး၊ နောက်ထပ်(၁၀)နှစ်(၂)ကြိမ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကိုရယူကာ သက်တမ်းတိုး၍ငှားရမ်းအသုံးပြုခွင့်ပေးရန်ဖြစ်ပါသည်။

၂။ "အငှားချထားခြင်းခံရသူ" သည် အပိုဒ်(၁)၌ ဖော်ပြပါရှိသော မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်မှပိုင်ဆိုင်ပြီး မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်၏လက်အောက်ခံကုမ္ပဏီတစ်ခုဖြစ်သော Lann Pyi Marine Co., Ltd. မှစီမံခန့်ခွဲလျက်ရှိသော မြေနှင့်အဆောက်အအုံများကို BOT စနစ်ဖြင့်ငှားရမ်း၍ ဆိပ်ကမ်းစီမံခန့်ခွဲခြင်းလုပ်ငန်းနှင့် သက်ဆိုင်သောလုပ်ငန်းများကို ဆောင်ရွက်ရန်ဖြစ်ပါသည်။

၃။ ငှားရမ်းအသုံးပြုခွင့်ကာလကုန်ဆုံးသည့်အခါ "အငှားချထားခြင်းခံရသူ" မှ အဆိုပါဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများကို "အငှားချထားသူ" သို့ လုပ်ငန်းဆောင်ရွက်နေသည့်အနေအထားဖြင့် အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးအပ်ရန်ဖြစ်ပါသည်။

**ငှားရမ်းမည့်မြေ၊ အဆောက်အအုံ၊ ပစ္စည်းများ**

၄။ အငှားချထားသူမှ ရန်ကုန်တိုင်းဒေသကြီး၊ ဆိပ်ကမ်းမြို့နယ်၊ အမှတ်(၅၅/၆၁)၊ ကမ်းနားလမ်းပေါ်တွင် တည်ရှိသော အကျယ်အဝန်း ၁၀. ၄၅၂ ဧက(၄၂၂၉၈ စတုရန်းမီတာ)ရှိ ဆိပ်ကမ်းနယ်မြေနှင့် လုပ်ငန်းဆက်စပ်နေသော ပို့ဆောင်ရေးဝန်ကြီးဌာနမှ သုံးစွဲခွင့်ပြုထားသည့်ဆိပ်ကမ်းဧရိယာအား အောက်ဖော်ပြပါ နောက်ဆက်တွဲ(ခ)နှင့်(ဂ)တွင် ဖော်ပြထားသည့်အဆောက်အအုံ(၁၅)လုံးအပါအဝင်ကို B.O.T စနစ်ဖြင့်ငှားရမ်းမည်ဖြစ်ပါသည် -

(က) ငှားရမ်းမည့်အဆောက်အအုံများစာရင်းမှာ နောက်ဆက်တွဲ(ဂ)ပါအတိုင်းဖြစ်ပါသည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် နောက်ဆက်တွဲ(ခ)ပါ အကွက်ချပုံစံအတိုင်းတည်ရှိသော အဆောက်အအုံများကို ငှားရမ်းခြင်းဖြစ်ပါသည်။

**အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၅။ "အငှားချထားသူ" သည် နောက်ဆက်တွဲများတွင် အသေးစိတ်ဖော်ပြထားသော ဆိပ်ကမ်းနယ်မြေနှင့် မြေပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်ကိုပိုင်ဆိုင်သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ" သည် ဤငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကိုအကောင်အထည်ဖော်ရန် အရည်အချင်းနှင့်ငွေကြေးအင်အားပြည့်စုံသူများဖြစ်ကြပါသည်။ "အငှားချထားသူ" နှင့် "အငှားချထားခြင်း ခံရသူ" တို့သည် ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်း အသီးသီးအာမခံကြပါသည်။

**ငှားရမ်းမည့်ကာလ**

၆။ ငှားရမ်းမှုကို ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်အား ချုပ်ဆိုသည့်နေ့ (စာချုပ်အကျိုးသက်ရောက်သည့်နေ့)မှ ကနဦးနှစ်(၅၀) (နှစ်ငါးဆယ်တိတိ)အထိ ငှားရမ်းမည်ဖြစ်ပြီး ကနဦးငှားရမ်းသည့်နှစ်ပြည့်ပြီးနောက်တွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှခွင့်ပြုမည့် ဂရန်သက်တမ်းတိုးကာလအပေါ် မူတည်၍ နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ကိုရယူကာ နောက်ထပ်(၁၀)နှစ် (၂)ကြိမ် ငှားရမ်းမည်ဖြစ်ပါသည်။ ထို့ကြောင့် ငှားရမ်းနိုင်မည့်နှစ်စုစုပေါင်းမှာနှစ်ပေါင်း(၇၀)ဖြစ်ပါသည်။

**လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလနှင့်လုပ်ငန်းပြင်ဆင်ရေးကာလ**

၇။ "အငှားချထားခြင်းခံရသူ" သည် ဆိပ်ကမ်းလုပ်ငန်းများစီမံခန့်ခွဲဆောင်ရွက်ရန်အတွက် Lann Pyi Marine Co., Ltd. မှ လုပ်ငန်းများအားလွှဲပြောင်းလက်ခံရန် လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလအား စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ (၆)လတာကာလအထိလုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလအဖြစ် သတ်မှတ်ခံစားခွင့်ရှိသည်။

၈။ "အငှားချထားခြင်းခံရသူ" သည် လုပ်ငန်းလွှဲပြောင်းလက်ခံရေးကာလအတွက် ငှားရမ်းခပေးဆောင်ခြင်းကို ကင်းလွတ်ခွင့်ရရှိသည်။

၉။ "အငှားချထားခြင်းခံရသူ" သည် ဆိပ်ကမ်းလုပ်ငန်းများကိုစီမံခန့်ခွဲဆောင်ရွက်ရန်အတွက် လိုအပ်သည့် လုပ်ငန်းခွင်ကြိုတင်ပြင်ဆင်မှုများကိုဆောင်ရွက်နိုင်ရန် လုပ်ငန်းခွင်ပြင်ဆင်ရေးကာလအား လုပ်ငန်းလွှဲပြောင်းကာလ ပြီးမြောက်သည့်နေ့၏ နောက်(၁)ရက်မှစတင်၍(၁)နှစ်တိတိကာလကို လုပ်ငန်းခွင်ပြင်ဆင်ရေးကာလအဖြစ် သတ်မှတ်ပါသည်။

၁၀။ "အငှားချထားခြင်းခံရသူ" သည် လုပ်ငန်းခွင်ပြင်ဆင်ရေးကာလ (၁)နှစ်အတွက်ငှားရမ်းခပေးဆောင်ခြင်းကို ကင်းလွတ်ခွင့်ရရှိသည်။

**Land Use Premium ပေးသွင်းခြင်း**

၁၁။ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ပေးသွင်းရမည့် Land Use Premium အမေရိကန်ဒေါ်လာ ၁ သန်း(အမေရိကန်ဒေါ်လာ ၁,၀၀၀,၀၀၀ တိတိ)ကို MEHL ကရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ လက်မှတ်ရေးထိုးပြီးသည့်ရက်မှ (၁၅)ရက်အတွင်းပေးသွင်းရမည်။

၁၂။ စာပိုဒ်(၁၁)တွင်ဖော်ပြထားသော သတ်မှတ်ထားသည့် Land Use Premium အား သတ်မှတ်သည့်ရက်အတွင်း၌ သတ်မှတ်ထားသောငွေစာရင်းသို့ ပေးသွင်းရန်ပျက်ကွက်ခဲ့ပါက ဤသဘောတူစာချုပ်သည် အလိုအလျောက် ရုပ်စဲပြီးဖြစ်သည်ဟု "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့မှမှတ်ယူရမည်။

**ငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်သက်တမ်း**

၁၃။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်သည် ဤစာချုပ်လက်မှတ်ရေးထိုးသည့်ရက် (စာချုပ်အကျိုးသက်ရောက်သည့်ရက်) မှစ၍ အကျိုးသက်ရောက်မည်ဖြစ်ပြီး စာချုပ်သက်တမ်းမှာကနဦး နှစ် ၅၀ ဖြစ်သည်။ ဆိပ်ကမ်းနယ်မြေအား ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ ဂရန်သက်တမ်းတိုးရရှိမှုအပေါ် မူတည်၍ နောက်ထပ် (၁၀)နှစ် (၂)ကြိမ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကိုရယူပြီး စာချုပ်သက်တမ်းတိုးနိုင်သည်။

**ငှားရမ်းခနှုန်းထားနှင့်ငွေပေးချေမှု**

၁၄။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးပြီးသည့်နေ့မှ (၅)နှစ်တာကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထားမှာ (၁)နှစ်လျှင် အမေရိကန်ဒေါ်လာ ၃ သန်းဖြစ်ပါသည်။ ငှားရမ်းခနှုန်းထားများကို ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်ရက်မှစ၍ (၅)နှစ်လျှင် (၁)ကြိမ် နှစ်ဦးနှစ်ဖက်ညှိနှိုင်း သတ်မှတ်သွားရမည်။ နောက်လာမည့်(၅)နှစ်တာသက်တမ်းအတွက် နှစ်စဉ်ငှားရမ်းခကို လက်ရှိပေးသွင်းနေရသော နှစ်စဉ်ငှားရမ်းခ၏ ၅ % မှ ၁၀ % အတွင်း၌ အတိုးအလျှော့ပြုလုပ်ပြီး နောက်လာမည့်(၅)နှစ်သက်တမ်း မစတင်မီ (၆)လကြိုတင်၍ နှစ်ဦးနှစ်ဖက်အပြီးသတ်ညှိနှိုင်းသတ်မှတ်ရမည်။ အဆိုပါ နောက်လာမည့်(၅)နှစ် သက်တမ်းအတွက် နှစ်စဉ်ငှားရမ်းခသတ်မှတ်ခြင်း စာချုပ်ကိုနောင်လာမည့်(၅)နှစ်သက်တမ်းမတိုင်မီ (၃)လကြိုတင်၍နှစ်ဦးနှစ်ဖက် ချုပ်ဆိုရမည်။

၁၅။ လုပ်ငန်းခွင်ပြင်ဆင်ရေးကာလ (၁)နှစ်မပြည့်မြောက်မီ (၁၀)ရက်အတွင်းတွင် နှစ်စဉ်ငှားရမ်းခကျသင့်ငွေ အမေရိကန်ဒေါ်လာ ၃ သန်းအား နောက်လာမည့်နှစ်အတွက်ကြိုတင်ပေးဆောင်ရမည်။ ၎င်းငွေကို MEHL ကရည်ညွှန်းသည့် ငွေစာရင်းအမှတ်သို့ပေးသွင်းရမည်။

၁၆။ နှစ်စဉ်ငှားရမ်းခအား သတ်မှတ်ကာလတွင် ပေးသွင်းနိုင်ခြင်းမပြုနိုင်ပါက နောက်ကျသောရက်များအတွက် ဒဏ်ကြေးငွေအား နောက်ကျရက်(၁)ရက်လျှင် နောက်ကျပေးသွင်းသည့် ငှားရမ်းခငွေစုစုပေါင်းပမာဏအပေါ်အခြေခံ၍ (၁)နှစ်လျှင်(၀. ၂%)ဖြင့်တွက်ချက်ပြီး ဒဏ်ကြေးထပ်ဆောင်းငွေအဖြစ် "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" ထံသို့ ပေးသွင်းရမည်။

**အငှားချထားခြင်းခံရသူ၏အခွင့်အရေးနှင့်တာဝန်ဝတ္တရားများ**

၁၇။ "အငှားချထားခြင်းခံရသူ" ၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ" သည် ဆိပ်ကမ်းလုပ်ငန်းများ အကောင်အထည်ဖော်ဆောင်ရွက်ရန် အတွက် ပြည်တွင်း/ပြည်ပ မိတ်ဖက်အဖွဲ့အစည်းများထံမှ လုပ်ငန်းနယ်မြေအတွင်းစီမံခန့်ခွဲမှု၊ နည်းပညာနှင့်ဘဏ္ဍာရေးအရ ပူးပေါင်းဆောင်ရွက်မှုများကို "အငှားချထားသူ" ၏ကြိုတင်သဘော တူညီချက်ဖြင့်ရယူပူးပေါင်းဆောင်ရွက်ပိုင်ခွင့်ရှိသည်။ သို့သော်လည်း လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ တာဝန်ခံရမည်။

(ခ) ငှားရမ်းသည့် အဆောက်အအုံများနှင့် ဆိပ်ကမ်းနယ်မြေကို ဆိပ်ကမ်းလုပ်ငန်းများဆောင်ရွက်ရန် အတွက် စနစ်တကျပြင်ဆင်ရမည်။

(ဂ) ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများပြင်ဆင်ခြင်း၊ သန့်ရှင်းရေးများပြုလုပ်ခြင်း၊ လုံခြုံရေး အတွက် စီမံဆောင်ရွက်ခြင်းတို့ကို မိမိ၏စရိတ်ဖြင့်ပြုလုပ်ရမည်။

(ဃ) မြေခွန်မှတစ်ပါး ဆိပ်ကမ်းလုပ်ငန်းခွင်နှင့်ပတ်သက်၍ နိုင်ငံတော်သို့ပေးဆောင်ရန်ရှိသော အခွန်အခများ၊ ရေခွန်၊ မီးခွန်၊ တယ်လီဖုန်းခွန် စသည်တို့ကို သက်ဆိုင်ရာဌာနများမှတောင်းခံသည့် အတိုင်းပေးချေရမည်။

(င) "အငှားချထားခြင်းခံရသူ" သည် ဤလက်မှတ်ရေးထိုးသည့် ငှားရမ်းခြင်းဆိုင်ရာသဘောတူ စာချုပ်အတွက် ကျခံရမည့်တံဆိပ်ခေါင်းခွန်အားလုံးအား တည်ဆဲဥပဒေနှင့်အညီကျခံရမည်။

(စ) "အငှားချထားသူ" ၏ စာဖြင့်ရေးသားထားသော သဘောတူညီချက်မပါရှိဘဲ ငှားရမ်းထားသော ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ၊ အခြားသူများထံ တစ်နည်းနည်းဖြင့်လွှဲပြောင်းခြင်း၊ တဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ ပေးကမ်းခြင်း၊ စွန့်လွှတ်ခြင်း စသည်တို့ကို (**လုံး၀**)မပြုလုပ်ရ။

(ဆ) အကြောင်းအမျိုးမျိုးကြောင့် ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများကို ဆက်လက်ငှားရမ်းခြင်း မပြုလိုပါက (၁)နှစ်ကြိုတင်၍ အကြောင်းကြားစာပေးပို့ရမည်။

(ဇ) အငှားချထားသည့် မြေနှင့်အဆောက်အအုံပေါ်တွင် ထူးခြားဖြစ်စဉ် (ဥပမာ- မီးလောင်ခြင်း၊ ဆူပူခြင်း၊ ခိုးယူခြင်း၊ ခိုက်ရန်ဖြစ်ပွားခြင်း ----)စသည်များ ဖြစ်ပွားလာပါက အချိန်နှင့်တပြေးညီ "အငှားချထားသူ" သို့ တယ်လီဖုန်း/စာတို့ဖြင့် ပေးပို့တင်ပြသွားရမည်။

(ဈ) မီးဘေးလုံခြုံရေးအတွက် ကြိုတင်စီမံ၍ မီးတားများကိုပြုလုပ်ထားပြီး လိုအပ်သည့်မီးဘေးလုံခြုံရေး စီမံချက်ကိုဥပဒေနှင့်အညီရေးဆွဲကာ လိုက်နာဆောင်ရွက်သွားရမည်ဖြစ်သည်။

(ည) "အငှားချထားခြင်းခံရသူ" သည် နိုင်ငံတော်ကခွင့်ပြုသော ဆိပ်ကမ်းနှင့်သက်ဆိုင်သည့် စီးပွားရေး လုပ်ငန်းများကိုသာလုပ်ကိုင်ရမည့်အပြင် တည်ဆဲစက်မှုဆိုင်ရာဥပဒေများ၊ အလုပ်ရှင်နှင့်အလုပ်သမား များနှင့်ဆိုင်သောဥပဒေများ၊ လျှပ်စစ်စွမ်းအားနှင့်ဆိုင်သောဥပဒေများနှင့် အခြားတည်ဆဲဥပဒေ၊ နည်းဥပဒေ ညွှန်ကြားချက်များကို လေးစားလိုက်နာရမည်။

(ဋ) ငှားရမ်းအသုံးပြုစဉ်ကာလအတွင်း မီးဘေးတစ်စုံတစ်ရာနှင့် အခြားအုပ်ချုပ်မှုကိစ္စများ ပေါ်ပေါက် လာပါက အငှားချထားခြင်းခံရသူတွင်သာတာဝန်ရှိပြီး ပေးလျော်ရန်တာဝန်များရှိလာပါက ပေးလျော်ရမည်။

(ဌ) ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ် သက်တမ်းကုန်ဆုံး၍ဖြစ်စေ၊ စာချုပ်ရပ်စဲလျှင်ဖြစ်စေ၊ အကြောင်းအမျိုးမျိုးကြောင့် ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများအတွက် ငှားရမ်းခ မပေးသွင်းမှုကြောင့်ဖြစ်စေ၊ အငှားချထားသည့်ပစ္စည်းအားပြန်လည်အပ်နှံရန် အကြောင်းပေါ်ပေါက် လာပါက "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ" သို့ချက်ချင်းအကြောင်းကြားကာ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများကို လုပ်ငန်းဆောင်ရွက်နေသည့်အနေအထားဖြင့် အဖိုးစားနားမယူဘဲ စနစ်တကျပြန်လည်လွှဲပြောင်းပေးရမည်။

(ဍ) ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ် သက်တမ်းကုန်ဆုံးလျှင် (သို့မဟုတ်) စာချုပ်ရပ်စဲလျှင် ယင်းနေ့မှ ရက်ပေါင်း(၉၀) အတွင်း "အငှားချထားခြင်းခံရသူ" ကမိမိ၏လုပ်ငန်းဆောင်ရွက်ချက် များကို အပြီးသတ်ဆောင်ရွက်ရပ်ဆိုင်းပြီး ဖြစ်စေရပါမည်။

(ပ) "အငှားချထားသူ" မှ တာဝန်ရှိပုဂ္ဂိုလ်များမှဖြစ်စေ၊ စာရင်းရှင်းလင်းဖျက်သိမ်းရေးအရာရှိကဖြစ်စေ၊ ငှားရမ်းသည့်ဆိပ်ကမ်းအား ကြိုတင်အကြောင်းကြားပြီးလာရောက်စစ်ဆေးပါက စစ်ဆေးခွင့်ပေးရမည်ဖြစ်ပြီး သိလို၍မေးမြန်းလာပါက "အငှားချထားခြင်းခံရသူ" မှ မှန်ကန်စွာအသိပေးတင်ပြရမည်။

(ဏ) ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ပါအချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှပြင်ဆင်အတည်ပြုခဲ့ပါလျှင် ၎င်းပြင်ဆင်အတည်ပြုချက်အတိုင်း တိကျစွာလိုက်နာဆောင်ရွက်ရမည်။

(တ) တည်ဆဲဥပဒေများနှင့်အညီ ဆိပ်ကမ်းလုပ်ငန်းဖွံ့ဖြိုးတိုးတက်စေရန်အတွက် လုပ်ငန်းအဆင့်ဆင့်စီမံဆောင်ရွက်သွားရမည်။

(ထ) ငှားရမ်းထားသည့် ဆိပ်ကမ်းနယ်မြေအားအသုံးပြုခြင်းနှင့်စပ်လျဉ်း၍ ဒေသအာဏာပိုင်များ၏ မူဝါဒများပြောင်းလဲလာပါက ပြောင်းလဲလာသည့်မူဝါဒညွှန်ကြားချက်များနှင့်အညီ ငှားရမ်းထားသည့်ဆိပ်ကမ်းနယ်မြေအား "အငှားချထားခြင်းခံရသူ" မှ အငှားချထားသူ၏ စာဖြင့်ရေးသားထားသောသဘောတူညီချက်ကိုရယူကာ လုပ်ငန်းပြောင်းလွှဲစီမံဆောင်ရွက်ပိုင်ခွင့်ရှိသည်။

(ဒ) ငှားရမ်းသည့် ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများမှာ "အငှားချထားသူ" ပိုင်ဖြစ်ပါသည်။ ၎င်းဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများ ပျက်စီးဆုံးရှုံးမှုမရှိစေရေးအတွက် "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းသည့်ကာလအတွင်းတွင် ကြီးကြပ်တာဝန်ယူဆောင်ရွက်ရမည်။

(ဓ) ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအား "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းထားသည့်အဆောက်အအုံများနှင့် လုပ်ငန်းသုံးစက်ယန္တရားပစ္စည်းများအား တည်ဆဲဥပဒေများနှင့်အညီအာမခံထားရှိရမည်။

**အငှားချထားသူ၏တာဝန်ဝတ္တရားများ**

၁၈။ "အငှားချထားသူ"၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ" အား စာပိုဒ်(၄)ပါ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများကို စာပိုဒ်(၆)ပါကာလအတိုင်း လွှဲပြောင်းအသုံးပြုခွင့်ပေးရမည်။

(ခ) "အငှားချထားသူ" သည် မြေခွန်မှတစ်ပါး အခြားအခွန်အခများကို ပေးဆောင်ရန်တာဝန်မရှိပါ။

(ဂ) "အငှားချထားခြင်းခံရသူ" မှ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအား အသစ်ပြန်လည်တည်ဆောက်ခြင်းအပါအဝင် လိုအပ်ချက်များတင်ပြတောင်းခံလာပါက "အငှားချထားသူ" သည်ငွေရေးကြေးရေးကိစ္စရပ်များမှအပ လိုအပ်သည်များကိုကူညီပေးရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၁၉။ "အငှားချထားခြင်းခံရသူ" သည် စာချုပ်သက်တမ်းကနဦးနှစ်(၅၀)ပြည့်၍ စာချုပ်သက်တမ်းကုန်ဆုံးပြီး၊ နောက်ထပ်သက်တမ်းတိုးမြှင့်ငှားရမ်းမည်ဆိုပါက စာချုပ်အပိုဒ်(၆)ပါ သက်တမ်းကာလအတွက် စာချုပ်သက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၁)နှစ်ကြိုတင်၍ "အငှားချထားသူ" ထံသို့ စာဖြင့်တရားဝင်တင်ပြရမည်။ ငှားရမ်းခနှုန်းထားကို နှစ်ဦးနှစ်ဘက်ညှိနှိုင်းကာစာချုပ်ပြန်လည်ချုပ်ဆိုဆောင်ရွက်သွားမည်။ ယင်းကဲ့သို့ စာချုပ်ပြန်လည်ချုပ်ဆိုသည့်ကိစ္စရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာအတည်ဖြစ်သည်။

**စာချုပ်ရပ်စဲခြင်း**

၂၀။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်လာပါက ရပ်စဲနိုင်သည် -

(က) မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ခြင်းသည် တစ်ဆက်တစ်စပ်တည်း ရက်ပေါင်း(၁၈၀) ကျော်လွန်သောဖြစ်ရပ်တွင် အငှားချထားခြင်းခံရသူကစာချုပ်ရပ်စဲရန်တောင်းဆိုလျှင်

(ခ) "အငှားချထားခြင်းခံရသူ" လူမွဲအဖြစ်ခံယူသွားလျှင်။

(ဂ) ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ရပ်စဲရန် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် သဘောတူလျှင်။

(ဃ) စီးပွားရေးလုပ်ငန်း၏ မူလရည်ရွယ်ချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့သည့် အခြေအနေတွင် ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ် ရပ်စဲရန်အငှားချထားခြင်းခံရသူက တောင်းဆိုလျှင်

**စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်**

၂၁။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်အား နှစ်ဦးနှစ်ဖက်အသိသက်သေစုံလင်စွာဖြင့် လက်မှတ်ရေးထိုးသည့် - ၂ - ၂၀၁၆ ရက်နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၂၂။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဘက်ဘက်က လိုအပ်သော သတိ၊ ဝီရိယနှင့်ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကိုထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။

၂၃။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ(၁၄)ရက်အတွင်း "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" သို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ" ကလက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် နှစ်စဉ်ငှားရမ်းခကိုသက်သာခွင့်ပြုနိုင်သည်။

**ပျက်ကွက်မှုနှင့် ပြန်လည်ဝင်ရောက်ပိုင်ခွင့်** (Default and Right of Re-entry)

၂၄။ (က) ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအား "အငှားချထားခြင်းခံရသူ" သည် ဤစာချုပ်ပါတာဝန်တစ်ရပ်ရပ်ကိုဆောင်ရွက်ရန်ပျက်ကွက်လျှင် (သို့မဟုတ်) စည်းကမ်းချက်တစ်ရပ်ရပ်ကိုဖေါက်ဖျက်လျှင် "အငှားချထားသူ" က ယင်းပျက်ကွက်မှု (သို့မဟုတ်) ဖေါက်ဖျက်မှုကို ကုစားဆောင်ရွက်ရန် အကြောင်းကြားစာပေးပို့ပြီးနောက် ရက်ပေါင်း(၆၀)အတွင်းလိုက်နာဆောင်ရွက်ခြင်းမရှိလျှင် ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများအား "အငှားချထားသူ" သည် ငှားရမ်းသည့် ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်တို့ကို ပြန်လည်လက်ရောက် ရယူခွင့်ရှိသည်။ ထိုအခါ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက်သဘောတူကြပါသည်။

(ခ) အကယ်၍ ဆိပ်ကမ်းနယ်မြေနှင့် အဆောက်အအုံများအား "အငှားချထားသူ"မှ အထက်အပိုဒ်(က)အရ ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများပေါ်ရှိ အကျိုးခံစားခွင့်အရပ်ရပ်တို့ကိုဝင်ရောက်၍ လက်ရောက်ရယူသည့်ကိစ္စတွင် "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" အားပေးရန်ကျန်ရှိသော ဆိပ်ကမ်းနယ်မြေနှင့်အဆောက်အအုံများ (သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် ပေးချေရန်တာဝန်မှကင်းလွတ်ခြင်းမရှိစေရ။

**စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၂၅။ ဤသဘောတူစာချုပ်တွင်ပါရှိသည့်စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ်အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

**အငြင်းပွားမှုများအားဖြေရှင်းခြင်း** (Arbitration)

၂၆။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ချစ်ကြည်ရင်းနှီးစွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ချစ်ကြည်ရင်းနှီးစွာဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့်ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးကဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံရုံးလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသောသမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံရုံးလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၂၀၁၆ ခုနှစ် မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်းဥပဒေ (၂၀၁၆ ခုနှစ်၊ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်-၅)နှင့်အညီဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်သည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက်ကုန်ကျစရိတ်များကိုအမှုရှုံးသူကကျခံရမည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၇။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်အား ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်း ပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် စာဖြင့်ရေးသားသဘောတူညီချက်ဖြင့်သာ ပြုလုပ်နိုင်သည်။ ယင်းသို့ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများ**

၂၈။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းထားသောဆိပ်ကမ်းနယ်မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများ၊ ရှေးဟောင်းပစ္စည်း၊ သယံဇာတများကိုတွေ့ရှိလျှင် "အငှားချထားသူ" ထံချက်ခြင်း အကြောင်းကြားပေးရမည်။ ထိုပစ္စည်းများမှာ နိုင်ငံတော်ပိုင်ဖြစ်ပြီး နိုင်ငံတော်က ခွင့်ပြုလျှင် "အငှားချထားသူ" နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ယူခွင့်ရှိစေရမည်။

**သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၉။ "အငှားချထားခြင်းခံရသူ"သည် ဆိပ်ကမ်းလုပ်ငန်းခွင်နှင့် ပတ်ဝန်းကျင်ဧရိယာအား လေထု၊ ရေထုနှင့် ကုန်းမြေညစ်ညမ်းမှုများမဖြစ်ပေါ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေအပါအဝင် တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။ လိုအပ်ပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာလိုအပ်ချက်များကို ပတ်ဝန်းကျင်နှင့်လိုက်လျောညီထွေဖြစ်အောင် ဖြည့်ဆည်း ဆောင်ရွက်ပေးရမည်။

**အငှားချထားသည့်မြေနှင့် အဆောက်အအုံများပြန်လည်လွှဲပြောင်းခြင်း**

၃၀။ အပိုဒ် ၄(က)ပါ အငှားချထားသည့်မြေနှင့်အဆောက်အအုံများအား စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါ သို့မဟုတ် စာချုပ်ရပ်စဲသည့်အခါ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့ သို့မဟုတ် စာချုပ်ရပ်စဲသည့်နေ့မှ (၃)လအတွင်း "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ" သို့ အဖိုးစားနားတစ်စုံတစ်ရာမပါရှိဘဲ ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။ အငှားချထားသည့်ပစ္စည်းများ၏အခြေအနေသည် ၎င်းပစ္စည်းများအား ကျိုးကြောင်းဆီလျော်စွာအသုံးချ၍ ဟောင်းနွမ်းသည့်ကိစ္စရပ်မှတစ်ပါး ပစ္စည်းများကိုလုပ်ငန်းဆောင်ရွက်နေသည့်အနေအထားအတိုင်း ပြန်လည်လွှဲအပ်ရမည်။

**နောက်ဆက်တွဲများ**

၃၁။ ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်တွင်ပါဝင်သော မြေပုံနှင့်နောက်ဆက်တွဲများသည် ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည် -

နောက်ဆက်တွဲ (က) မြေငှားဂရန်မိတ္တူ

နောက်ဆက်တွဲ (ခ) အဆောက်အအုံအကွက်ချပုံစံ

နောက်ဆက်တွဲ (ဂ) ငှားရမ်းမည့်အဆောက်အအုံများစာရင်း

**စာပေးစာယူပြုလုပ်ရန် လိပ်စာများ**

၃၂။ "အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ"တို့အကြား ဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းများနှင့်ပတ်သက်၍ အောက်ပါလိပ်စာအတိုင်းလိပ်မူရမည် -

| **အငှားချထားသူများအတွက်** | **အငှားချထားခြင်းခံရသူများအတွက်** |
|---|---|
| အမည် - ဦးသန်းထွန်း | အမည် - ဦးတင်မောင်ရင် |
| ရာထူး - ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် | ရာထူး - ဒါရိုက်တာ KTSL Co., Ltd |
| လိပ်စာ - အမှတ် (၁၈၉/၁၉၁)၊ မဟာဗန္ဓုလလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ | လိပ်စာ - အေ/၄-အေ/၅၊ အနော်ရထာအိမ်ရာ၊ ပြည်လမ်း၊ ၂ ရပ်ကွက် ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| ဖုန်း - ၀၁ ၃၉၇၄၀၉ | ဖုန်း - ၀၁ ၅၂၇၅၁၆ |
| ဖက်စ် - ၀၁ ၃၉၇၄၅၄ | ဖက်စ် - ၀၁ ၅၂၇၃၃၀ |

အထက်ဖော်ပြပါ စည်းကမ်းချက်များကို နှစ်ဦးနှစ်ဖက်သဘောတူလက်ခံပါသဖြင့် ဤငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ(      )ရက်နေ့၌ အောက်ပါအသိသက်သေများရှေ့မှောက်တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့က အသီးသီးလက်မှတ်ရေးထိုးကြပါသည် -

| **အငှားချထားသူ (ကိုယ်စား)** | **အငှားချထားခြင်းခံရသူ (ကိုယ်စား)** |
|---|---|
| ဗိုလ်ချုပ်ဇာနည်ဝင်း | ဦးဂျော်နသန်မျိုးကျော်သောင်း |
| ၁၂/ဒဂန(နိုင်) ၀၁၀၂၂၀ | ၁၂/ဗဟန(နိုင်) ၀၈၅၁၅၅ |
| မန်နေဂျင်းဒါရိုက်တာ | မန်နေဂျင်းဒါရိုက်တာ |
| မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် | KTSL Co., Ltd |

**"အသိသက်သေများ"**

| | |
|---|---|
| ဦးသန်းထွန်း | ဦးမျိုးသန့် |
| ၁၂/ဒဂန (နိုင်) ၀၁၀၃၂၀ | ၁၂/သဃက(နိုင်) ၀၁၃၂၃၄ |
| ဌာနကြီးမှူး၊ အထွေထွေအုပ်ချုပ်ရေးရာဌာနကြီး | ဒါရိုက်တာ |
| မြန်မာ့စီးပွားရေးဦးပိုင်လီမိတက် | KTSL Co., Ltd |

ဗိုလ်အောင်ကျော်ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်း
လုပ်ငန်းသုံးစက်ကိရိယာပစ္စည်းများစာရင်း

| စဉ် (No) | အကြောင်းအရာ (Particular) | ကုန်ထုတ်လုပ်သူ (Brand Manufacturer) | မော်ဒယ်အမျိုးအစား (Model) | ထုတ်လုပ်သည့်နှစ် (Year) | အင်ဂျင်အရွယ်အစား(Capacity) | စက်အမှတ် (Serial Production No.) | မှတ်ချက် (Remark) |
|---|---|---|---|---|---|---|---|
| | **Cranes** | | | | | | |
| 1 | STS Crane (40 Ton ,35 meter) အသစ် | Z.P.M.C CHINA | ZP13-2100 | 2015 | 40 Ton | - | |
| 2 | Portal Crane(MQ 4033) | Z.P.M.C CHINA | MQ 4033 | 2011 | 41 Ton | Portal 2 | |
| 3 | Quay Side Container Crane | Y.M.E.C CHINA | | 1997 | 30.5 Ton | - | |
| 4 | Portal Crane | Y.M.E.C CHINA | | 1997 | 40 Ton | No.1 | |
| | **RTG Cranes** | | | | | | |
| 5 | RTG Crane (40 Ton) အသစ် | Z.P.M.C CHINA | | 2015 | 40 Ton | - | |
| 6 | Yard Gantry Crane | MITSUBISHI COR: JAPAN | | 1997 | 35 Ton | RTG-3 | |
| 7 | Yard Gantry Crane | MITSUBISHI COR: JAPAN | | 1997 | 35 Ton | RTG-4 | |
| | **Reach Stacker** | | | | | | |
| 8 | Reach Stacker (Sany - RSC45C) | SANY | RSC45C | 2012 | 45 Ton | SANY-I | |
| 9 | Reach Stacker (Sany - RSC45C) | SANY | RSC45C | 2013 | 46 Ton | SANY-II | |
| 10 | Empty Container Handler (Sany -SDCY 90K6C) | SANY | SDCY 90K6C | 2012 | 8 Ton | - | |

| စဉ် (No) | အကြောင်းအရာ (Particular) | ကုန်ထုတ်လုပ်သူ (Brand Manufacturer) | မော်ဒယ်အမျိုးအစား (Model) | ထုတ်လုပ်သည့်နှစ် (Year) | အင်ဂျင်အရွယ်အစား(Capacity) | စက်အမှတ် (Serial Production No.) | မှတ်ချက် (Remark) |
|---|---|---|---|---|---|---|---|
| | **Forklifts** | | | | | | |
| 11 | Forklift အခွံ | FANTUZZI | FDC-150S3 | 1997 | 15 Ton | ၉၆ (ထ) | |
| 12 | 4 Ton Forklift (Daewoo) | DAEWOO | D-40S | 1999 | 4 Ton | ၁၁၄ (ထ) | |
| 13 | 2.5 Ton Battery Forklift (TCM) | TCM | FB-25-7 | 2009 | 2.5 Ton | 25 (ဒ) | |
| 14 | 2.5 Ton Battery Forklift (TCM) | TCM | FB-25-7 | 2009 | 2.5 Ton | 26 (ဒ) | |
| 15 | 2.5 Ton Battery Forklift (TCM) | TCM | FB-25-8 | 2009 | 2.5 Ton | 27 (ဒ) | |
| | **Prime Movers** | | | | | | |
| 16 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၂ (အ) | |
| 17 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၃ (အ) | |
| 18 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၄ (အ) | |
| 19 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၅ (အ) | |
| 20 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၆ (အ) | |
| 21 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၇ (အ) | |
| 22 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၈ (အ) | |
| 23 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၄၉ (အ) | |

| စဉ် (No) | အကြောင်းအရာ (Particular) | ကုန်ထုတ်လုပ်သူ (Brand Manufacturer) | မော်ဒယ်အမျိုးအစား (Model) | ထုတ်လုပ်သည့်နှစ် (Year) | အင်ဂျင်အရွယ်အစား(Capacity) | စက်အမှတ် (Serial Production No.) | မှတ်ချက် (Remark) |
|---|---|---|---|---|---|---|---|
| 24 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၅၀ (အ) | |
| 25 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၅၁ (အ) | |
| 26 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၅၂ (အ) | |
| 27 | Prime Mover | OTTAWA | YT-50 | 1999 | 40 Ton | ၅၃ (အ) | |
| 28 | Prime Mover | OTTAWA | YT-30 | 1987 | 40 Ton | ၂၅ (အ) | |
| 29 | Prime Mover | OTTAWA | YT-31 | 1987 | 40 Ton | ၂၇ (အ) | |
| | **Skeletal Trailer** | | | | | | |
| 30 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-301 AP | 1999 | 40' | 40'-1 | |
| 31 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-301 AP | 1999 | 40' | 40'-2 | |
| 32 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-301 AP | 1999 | 40' | 40'-3 | |
| 33 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-301 AP | 1999 | 40' | 40'-4 | |
| 34 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-301 AP | 1999 | 20' | 40'-5 | |
| 35 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-301 AP | 1999 | 20' | 40'-6 | |
| 36 | Skeletal (Hyudai) (မေ-၄၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-1 | |

| စဉ် (No) | အကြောင်းအရာ (Particular) | ကုန်ထုတ်လုပ်သူ (Brand Manufacturer) | မော်ဒယ်အမျိုးအစား (Model) | ထုတ်လုပ်သည့်နှစ် (Year) | အင်ဂျင်အရွယ်အစား(Capacity) | စက်အမှတ် (Serial Production No.) | မှတ်ချက် (Remark) |
|---|---|---|---|---|---|---|---|
| 37 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-2 | |
| 38 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-3 | |
| 39 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-4 | |
| 40 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-5 | |
| 41 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-6 | |
| 42 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-7 | |
| 43 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-8 | |
| 44 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-9 | |
| 45 | Skeletal (Hyudai) (ပေ-၂၀) | HYUDAI | TC-205 AP | 1999 | 20' | 20'-10 | |
| | **Spreaders** | | | | | | |
| 46 | 40' Spreader (Frame) | CHINA | - | 2011 | 40 Ton | 40'-2 | |
| 47 | 40' Spreader (Box Type) | STINIS | SAC-40-6 | 2005 | 35 Ton | 40'-7 | |
| 48 | 40' Spreader (Box Type) | STINIS | SAC-40-7 | 2005 | 37 Ton | 40'-8 | |
| 49 | 40' Spreader (Box Type) (Auto Twist) | STINIS | SAC-40-5/A | 2013 | 40 Ton | 40'-9 | |

